သီဟိုဠ်ကျွန်း-အနုရာဓမြို့ တောင်ဘက်
မဟာဝိဟာရကျောင်း
ရဟန္တာမြတ် တပါး ရေးသားတော်မူသော
( ဘုရားသိုက် )

# ဆကောဃဓါတုဝင်
## နှင့်
## သောဏ္ဏာယစေတီကျောက်စာ

---

ဆရာကြီး—ဦးမြသိန်းထွန်း
ရေး

## သဒ္ဓမ္မရှင်းတမ်း
၃-ကျမ်းတွဲ

---

မူပိုင်ရှင်-ထုတ်ဝေသူ
(ဆန်းလိုက်) ဦးမောင်ကြီး
သာ သ န မု ခ စာအုပ်တိုက်
ဆူးလေဘုရားဝင်း၊ ရန်ကုန်မြို့

အဘိုး-၁ ကျပ်ခွဲ။

၂၁၈၀၃

သိဟိုဠ်ကျွန်း-အနုရာဓမြို့ တောင်ဘက်

မဟာဝိဟာရကျောင်း

ရဟန္တာမြတ် တပါး ရေးသားတော်မူသော

( ဘုရားသိုက် )

# ဆကေသဓါတုဝင်

နှင့်

# သောဏ္ဏာယစေတီကျောက်စာ

---


ဆရာကြီး—ဦးမြသိန်းထွန်း

ရေး


## သဒ္ဓမ္မရှင်းတမ်း

၃-ကျမ်းတွဲ

---


မူပိုင်ရှင်-ထုတ်ဝေသူ

(ဆန်းလိုက်)ဦးမောင်ကြီး

သာသန့မုခစာအုပ်တိုက်

ဆူးလေဘုရားဝင်း၊ ရန်ကုန်မြို့။

၁၃၁၄ ခု၊ [illegible] ပဌမနှိပ်ခြင်း။



ယောဂီပုံနှိပ်တိုက်၊ ၂၄၅-လွှစ္စလမ်း၊
ရန်ကုန်မြို့။

# ထုတ်ဝေသူ၏ နိဒါန်း

## "ဓီရံဘိဥ္ဇတု သန္ဒမ္ဘော"

၁၃၁၃-ခု၊ သီတင်းကျွတ် လပြည့်နေ့၌ **"သာသနမုခကျမ်း"**ကိုထုတ်ဝေခဲ့သည်။ ၎င်းကျမ်းကို ထွဋ်ခေါင်ဆရာတော် ဘုရားကြီး၏ မြေး၊ ပိဋကတ္တယပါရဂူ ဝိပဿနာ ဓမ္မပါမောက္ခ- ကျေးဖူးရင် ဆရာကြီး ဦးမြသိန်းထွန်း ရေးသားသည်။ ဆရာကြီးက **"မဟာဉာဏ်မြင်-ခုနစ်ရက်စဉ်"** အမည်ဖြင့်ရေးသားပေးလေရာ ကျွန်ုပ်က စာမျက်နှာ ၁၀၀ ခန့်ရှိ ထုတ်ဝေသူ၏ နိဒါန်းကို ရေးသားပြီးလျှင် **"သာသနမုခကျမ်း"** ဟု အမည်တတ်ကာ ထုတ်ဝေခဲ့သည်။ အဆိုပါနိဒါန်းကိုရေးသားရာ၌ **"သာသနာတစ်ဝက်-မင်းကောင်းတဆက်"** ဟု ဆိုသောစကားနှင့် စပ်လျဉ်း၍- လောကီပညာရှိများ ရေးသားထားကြသော ဂဝံပတေ့သိုက်၊ မှန်ကန်းသိုက် ရွှေတိဂုံသိုက်၊ နတ်စက်ရောင် ဇာဂရုသိုက် အစရှိသော သိုက်စာများမှ အရေးကြီးသော အချက်များကို အနည်းငယ်စီထုတ်နုတ်၍ ဝေဘန်ပြခဲ့သည်။ ထိုနောက်ရဟန္တာတပါး ရေးသားတော်မူသော ဘုရားသိုက် ရဟန္တာသိုက် ဟု ခေါ်ဆိုအပ်သည့် **"ဆကေသဓာတုဝင်"**မှ- မြတ်စွာဘုရား၏ ဗျာဒိတ်တော် ၄-ချက်နှင့် ရဟန္တာကြီး ၆-ပါး တို့၏ ဗျာဒိတ်တော် ၃-ချက်တို့ကိုသာ ထုတ်နုတ်ဖော်ပြခဲ့သည်။ထို့ပြင် ဆကေသဓာတုဝင်ကိုကိုးကား၍ ညောင်ချောင်း ဆရာတော် ဘုရားကြီး (ဦးဉာဏဝံသ)

စိုက်ထူ ထားတော် မူခဲ့သော **"သောဠာယစေတီ-ကျောက်စာ"** အကြောင်းကိုပါ အနည်းငယ်ဘော်ပြခဲ့ပါသည်။

လင်္ကာဒီပ၊ တမ္ဗဒီပ၊ ဝရဒီပ၊ ဩဇာဒီပ၊ မဏ္ဍဒီပ၊ နဂ္ဂဒီပ၊ မဟိလာဒီပ၊ နာဂဒီပ၊ သီဟဠဒီပဟု ဆိုအပ်သော သီဟိုဠ်ကြီး၌ မြတ်စွာဘုရား၏ သာသနာတော်-နေရောင် လရောင်ပမာထွန်းပစဉ်အခါက ရဟန္တာအရှင်မြတ်များ စီရင်တော်မူခဲ့ကြသော ဗုဒ္ဓဝင်၊ မဟာဝင်၊ အနာဂတဝင်၊ ဓာတုဝင် အစရှိသော ဝင်ကိုးဝင်အပါအဝင် **"ဆကေသဓာတုဝင်"** ကျမ်းသည် လောကီပညာရှိများ ရေးသားကြသော သိုက်စာများနှင့် နှိုင်းယှဉ်လျှင် အထူး ပိုမိုအား ထား စိတ်ဝင်စားစရာ ကောင်းသော ကျမ်း တကျမ်း ဖြစ်သည်မှာ ယုံမှားဘွယ်ရာ မရှိချေ။

သို့ကြောင့် ညောင်တုံးမြို့ ရွှေဟင်္သာတောရ **"အဂ္ဂမဟာပဏ္ဍိတ"** စံကျောင်းဆရာတော်ဘုရားကြီးသည် ပင်လျှင် ၁၂၇၅-ခုနှစ် သီတင်းကျွတ် လပြည့်ကျော် ၂-ရက် နေ့တွင် ရေးသားတော် မူသော **"စေတီယဝိနိစ္ဆယကျမ်း"** (စာမျက်နှာ ၂၅ မှ ၃၀) ၌ မြတ်စွာဘုရားသခင်သက်တော်ထင်ရှားရှိတော်မူစဉ်က၊ ဥဒ္ဒိဿက စေတီတော် များကို ပစ္စန္တရာဇ် အရပ်၌ ရဟန္တာကြီး ၆ ပါး တည်သွားတော် မူခဲ့ကြောင်းကို ဆကေသဓါတုဝင်ကို ကိုးကား၍ ဘော်ပြတော်မူ ထားလေသည်။

တဖန် ခန္တီမြို့မြို့နယ် ညောင်ချောင်း ဆရာတော်ဘုရားကြီး(ဦးဥာဏဝံသ)သည်လည်း၊ ၎င်းဆာကေသဓာတုဝင်ကိုပင် အထောက်အထား အကိုးအကားပြု၍ သသုံခရိုင် ဘီးလင်းမြို့နယ် တောင်စွန်း ကေလာသ တောင်ထိပ် ၌ ၁၂ဂဂ၃-တန်းဆူးလပြည့်နေ့တွင်“ **အဟောအစ္ဆရိယာ ဝတ-သောဏ္ဏာယစေတီကျောက်စာ** ” တိုင်ကြီးကို စိုက်ထူတော်မူခဲ့ပြန်သည်။

အထက်က တော်ပြခဲ့သည့်အတိုင်း သာသနမုခကျမ်း ထုတ်ဝေသူ၏ နိဒါန်းတွင် အဆိုပါဆကေသဓာတုဝင်နှင့် သောဏ္ဏာယ စေတီ ကျောက်စာမှ အ ရေး ကြီး သော အချက်များကို ထုတ်နုတ် တော်ပြလိုက်လေရာ တိုင်းသူ ပြည်သား မိတ်ဆွေအများတို့က အပြည့်အစုံ သိလိုကြ ကြောင်းကို အခါခါ တောင်းပန်ကြသောကြောင့် ရှာဖွေ ရဆောင်းရရှိထားသော ဆကေသဓာတုဝင်မူဟောင်းမှ ချို့ယွင်းသော ပါဠိအက္ခရာ များကို သုဓ်သင် ရှင်းလင်း ပြင်ဆင်၍ ရေးသား ပေးသနားတော်မူရန် ပထမကျော် သကျသီဟ ဓမ္မာစရိယာ ပါဠိပါရဂူပုဂ္ဂိုလ်ကြီး တဦးအား တောင်းပန် လျှောက်ထားရ ပြန်သည်။ ထိုပုဂ္ဂိုလ်ကြီး ပြင်ဆင် ရေးသား ပေးတော် မူသော ဆကေသဓာတု ဝင်နှင့် ညောင်ချောင်း ဆရာတော် ဘုရားကြီး စိုက်ထူ ထားခဲ့သော သောဏ္ဏာယ စေတီ ကျောက်စာ မူကိုပါ ရပေါင်း၍ စာတအုပ် ကျမ်းတကျမ်းတည်း ပြုလုပ်ကာ တိုင်းသူ ပြည်သားတို့ သဒ္ဓါတရား တိုးပွါး ကြည်ညိုစိမ့်

သော၎ါ၍**''ဆကေသဓာတုဝင်နှင့်သောဏ္ဏာယစေတီကျောက်စာ''**ကိုပုံနှိပ်ထုတ်ဝေဖြန့်ချိလိုက်ရပြန်သည်။

ထို့မှတပါးလည်း၊ အဆိုပါ ဗျာဒိတ်တော်လာ၊ အလံ (၁၀၀) မြင့်သော၊ သောဏ္ဏာယ ရွှေစေတီတော်ကြီးနှင့် တကွ၊မွေ့ရာဇာ သာသနာပြုမင်းကောင်း မင်းမြတ်ပေါ် ထွန်းသောအချိန်အခါအထိ၊ကပ်ကြီးသုံးပါးမှ ကင်းငှင်း လွတ်မြောက်၍ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြစေခြင်း အကျိုး၄ါ၊ လူတိုင်းလူတိုင်း သဒ္ဓါ, သီလ, သုတ, စာဂ, ပညာ, ဟိရီ, ဩတ္တပ္ပတရား တည်းဟူသော သူတော်ကောင်း ဥစ္စာရတနာ (၇) ပါးနှင့် ပြည့်စုံထားနှင့်ကြရန် အထူးသဖြင့် အရေးကြီးလှသည်အားလျော်စွာ **''သဒ္ဓမ္မ ရှင်းတမ်း''**ကိုပါ၊ နောက်ဆက်တွဲ အနေဖြင့် ထုတ်ဝေ လိုက်ရပါသတည်း။

## သဒ္ဓမ္မမောယနူ့၊ သပ္ပုရိသာ။

**မနာပသုခကာမာ၊ မြတ်နိုးဘွယ် နှစ်သက် ဘွယ် သော ချမ်းသာကို အလို ရှိကုန်သော။ သပ္ပုရိသာ၊ သူတော် ကောင်း တို့သည်။ သောကပရိဒေဝါဒိကံ၊ စိုးရိမ်ခြင်း ငိုကြွေးခြင်း မြည်တမ်းခြင်း အစရှိသော။ ပရိဋ္ဌာဟံ၊ပူပန်ခြင်းကို။ ဝူပသမံ၊ငြိမ်းစေတတ်သော။ သဒ္ဓမ္မံ၊ သူတော်ကောင်းတို့၏ တရားကို။ မမာယန္တု၊ မြတ်နိုးစုံမက်နှစ်သက်သည်ဖြစ်စေကုန်သတည်း။ ။ဓမ္မ ရသံ၊ စိုးရိမ်ပူဆွေး ငိုကြွေးမြည်တမ်း ဆင်းရဲခြင်းကို**

လွတ်ကင်း ပပျောက် စေတတ်သော တရားအရသာကို။ သပ္ပုရိသာ၊ သူတော်ကောင်းတို့သည်။ သဒ္ဓါဟဇ္ဈေနှ၊ သဒ္ဓါတရားတည်းဟူသောလက်ဖြင့်။ ဂဟေတွာ၊ ယူ၍။ ပညာယ၊ ပညာဖြင့်။ ပရိဘုဉ္ဇန္တိ၊ သုံးဆောင်သည် ဖြစ်စေကုန်သတည်း။ ။သဒ္ဓမ္မေ၊ စိတ်နှလုံး၏ ကြည်လင်ရွှင်လန်းခြင်းကို ဖြစ်စေတတ်သော အဓိပညာ ဝိပဿနာတရားသဘင် မင်္ဂလာပွဲ၌။ သပ္ပုရိသာ၊ သူတော်ကောင်း အပေါင်းတို့သည်။ အဘိရမန္တု၊ မွေ့လျော်နိုင်သည်-ဖြစ်ကြပါစေကုန်သတည်း။

ထုတ်ဝေသူ။ ။(ဆန်းလိုက်) ဦးမောင်ကြီး၊
သာသနမုခစာအုပ်တိုက်၊
ဆူးလေဘုရားဝင်း၊ ရန်ကုန်မြို့။
၁၃၁၄-ခုတပို့တွဲ လပြည့်နေ့။

# သိကြားသာသနာ

——:၀:——

ကောဇာသက္ကရာဇ် ၁၃၁၈-ခုနှစ်။ ။ တာဝနိန္ဒုသေသကာလေ၊ ၁၀၄၆-ခုကြွင်းသောကာလ၌။ ဗုဒ္ဓသာ၊ မြတ်စွာဘုရား၏။ သာသနန္တရာ၊ သာသနာတော် ကုန်သောကြောင့်။ သက္က ယာဝစိတံ၊ သိကြားမင်းတောင်းပန်အပ်သော။ သာသနံ၊သာသနာတော်ကို။ ဒေဝါ၊ နတ်တို့သည်။ အနုမောဒေနု၊ မမေ့မလျော့သဖြင့်။ ရက္ခိံသတိ၊ စောင့်ရှောက်ကြလတံ့။ ။

သာသနာနှစ် ၂၅၀၀။ ။မြွေနှင့်နဂါး၊ ကြွက်နှင့် ကျား၊ ရောက်ပြားထိုခါ၊ သာသနာ၊ ဒေဝါနတ်များ ကူသတံ့။ ။

(နတ်စက်ရောင်နှင့် ဇာဂရုသိုက်။)

# ဆကေသဓာတုဝင်

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

၁။ ဗုဒ္ဓဉ္စ ဓမ္မဉ္စ ဂဏံ နမိတွာ၊ အဂ္ဂံ ဝိသုဒ္ဓံ ဇနပုည
ခေတ္တံ။ ဆကေသ ဓာတူနမ ထူပဝံသံ၊ ဝက္ခာ
မဟံ သာသနဝဍ္ဎနာယ။ ။

၂။ ဧကသ္မိံ ကိရ သမယေ အမှာကံ ဘဂဝါ ရာဇဂဟေ ဝိဟရတိ ဝေဠုဝနေ ကလန္ဒကနိဝါပေ။ တတြပိ ခေါ ဘဂဝါ စတုန္နံ ပရိသာနံ မဇ္ဈေ ဒေသေသိ အာဒိကလျာဏံ မဇ္ဈေကလျာဏံ ပရိယောသာနကလျာဏံ သာတ္ထံ သဗျဉ္ဇနံ ကေဝလပရိပုဏ္ဏံ။

၃။ တေန ခေါ ပန သမယေန အနုရုဒ္ဓေါ သောဘိတော ပဒုမုတ္တရော ဂုဏသာဂရော ဉာဏပဏ္ဍိတော ရေဝတောတိ ဆ ခီဏာသဝါ ဧကဋ္ဌာ ဟုတွာ ယေန ဘဂဝါ တေနုပသင်္ကမိံသု၊ ဥပသင်္ကမိတွာ ဘဂဝန္တံ အဘိဝါဒေတွာ ဧကမန္တံ နိသီဒိံသု၊ ဧကမန္တံ နိသိန္နာ ခေါ တေ ခီဏာသဝါ ဘိက္ခူ ဘဂဝန္တံ ဧတဒဝေါစုံ။

၄။ နဟိ ဘန္တေ ဘဂဝတာ သမတိံသ ပါရမိယော ပူရေန္တေန ဧကဒေသသင်္ဂဟိတဗ္ဗံ ပူရိတာ၊ အထခေါ သဗ္ဗသင်္ဂဟိတဗ္ဗံ ကပ္ပကောမေန ပူရိတာ၊ ယေကေစိ ဘန္တေ သတ္တာ အာသန္နဋ္ဌာ၊ တေသံ တာဝ ဒဿနေန ဥဘယတ္ထသိဒ္ဓါ။ ယေစညေ သတ္တာ ဒူရဋ္ဌာ ပေါတ္ထံ၊ တေသံ အတ္ထာယ ဘဂဝတော သရီရဓာတုံ ပူဇနီယာဝတ္ထုံ ထပေတဗ္ဗံ၊ မဟာသမုဒ္ဒဿ ပန ဘန္တေ အဝိဒူရေ

ကောသဗ္ဗိံ ပဝိဋ္ဌဒေသေ ဗဟုဇနာ ဝသန္တိ၊ တေသံ အနု
ကမ္ပာယ ပူဇနီယံ ဒါတုံ ဝဋ္ဋတီတိ။

၅။ အထခေါ ဘဂဝါ တေသံ ဝစနံ သုတွာ မဟာ
ကရုဏာယ သမုဿာဟိတစိတ္တော ဟုတွာ ဇနပဒ ဝါ
သီနံ ဟိတကရဏတ္ထံ ဒက္ခိဏေန ဟတ္ထေန သီသံ ပရာ
မသိ။ သီသံပရာမသိတွာ သောဠသဝဏ္ဏရံသိယော ဝိဇ္ဇောတ
မာနာ သကေသာ ဘဂဝတော ဟတ္ထေ လဂ္ဂိံသု။ အထ
ခေါ ဘဂဝါ တေသံ သန္တိံ အရဟန္တာနံ အဒါသိ။

၆။ တေပိ ခေါ တုဋ္ဌမနာ ဟဋ္ဌာ အတ္တနော သီရ
သာဝ သမ္ပဋိစ္ဆိံသု။

၇။ တဒါ အာယသ္မာ အာနန္ဒော ဘဂဝန္တံ ပုစ္ဆိ ကိံ
ဘန္တေ ဟတ္ထိဇနပဒေ သဏ္ဌာနံ အနုတ္တရာယော ဘဂဝ
တော ဓာတုယော နိဿာယ ဘဝိဿတီတိ။

၈။ နဝ ပဿာဝိ အာနန္ဒ ဟတ္ထိ ဇနပဒေ သဏ္ဌာနံ
ပရိဟာနိံ ဂမိဿေဝ ပဿာဝိ တိ အာဟ။ (က) မမ
ပရိနိဗ္ဗာနတော ဟိ အာနန္ဒ ပဉ္စဝဿသဟဿာနိ မမ
သာသနံ ပတိဋ္ဌိတံ ဘဝိဿတိ။ (ခ) ဇမ္ဗု ဆ ကေ
သဓါတုယော ပဉ္စသတာဓိက ဒွိသဟဿဝဿာနိ ဒုက္ခိ
တာ ဘဝိဿန္တိ။ (ဂ) တတော ပရံ မဟာပူဇာ သက္ကာ
ရော ဘဝိဿတိ။ (ဃ) ကေကာံ စေတိယံ မဟာ
သတ္တ ဗန္ဓိယံ ဘဝိဿန္တိ တိ ဗျာကာသိ။

၉။ တတော အာယသ္မာ အာနန္ဒော ဘဂဝန္တံ ဝန္ဒိ
တွာ ပဒက္ခိဏံ ကတွာ ပက္ကမိ။

၁။ တေပိ ခေါ ဝိဇာသဝါ ကေသေ လဘိတွာ
ဘာဂဝန္တံ ဝန္ဒိတွာ အနုရုဒ္ဓေန သဒ္ဓိံ ပက္ကမိံသု၊ ပက္ကမိတွာ
ပန အာကာသေ အန္တုဂ္ဂန္တွာ တာသ္မိံယောဝ ပဗ္ဗတ္တေ ဒေဝသော
ဩတရိတွာ တဏ္ဍေကရဏ္ဍံ ဝသိတွာ သုရိယုဂ္ဂမနေ ဝေလာ
ယ သရီရပဋိဇဂ္ဂနံကတွာ တတော ဂါမံ ပိဏ္ဍာယ ပဝိ
သိတွာ ယထာလဒ္ဓံ အာဟာရံယေဝ ပရိဘုဉ္ဇိံသု။

၂။ တတော သဗ္ဗေပိ ဝိဇာသဝါ ဒက္ခိဏာဒိသာဘာ
ဂေန ဂန္တွာ သာခဂ်ရဝနသဏ္ဍံ အရဏသဒ္ဒသဝဏ္ဏံ ရမ
ဏီယံ ဘူမိဘာဂံ ဒိသွာ တုဏ္ဌစိတ္တာ ဟုတွာ ဣမသ္မိံ ဌာနေ
ဖါသုကံ ဣမသ္မိံ ဌာနံ ကေသဓါတုံ နိဒဟိတုံ ဝဋ္ဋတိတိ၊
အထခေါ တေဒဟောသိ ကထံ အာဝုသော ဣဓ ဓါတုပါ
သကော လဒ္ဓါ အမှေဟိတိ။

၃။ တဒါ အနုရုဒ္ဓေါ အဉ္ဇလိံ ပဂ္ဂဟေတွာ အဘိဏှာနံ
ကရောန္တော ဣမံ ဂါထမာဟ။

ပါဏာံ ခနံ ဝါ သကပုတ္တဒါရံ၊ ပုဗ္ဗေတေန ဒိန္န မနုဿရူပံ။
တေနေဝ လဒ္ဓါ ယဒိ ဗောဓိဉာဏံ၊ ဟောတွဇ္ဇမသ္မိံ
သုဥပဋ္ဌကာရောတိ။

၄။ တံခဏညေဝ သက္ကဿ ပဏ္ဍု ကမ္ဗလသိလာ
သနံ ဥဏှာကာရံ ဒဿေသိ။ သက္ကော ဒေဝရာဇာ အာ
ဝဇ္ဇေတွာ တံကာရဏံ ဉတွာ လာဘာ ဝတ မေ၊ သုလဒ္ဓံ
ဝတ မေ၊ ယော ဟံ ဧဝံ မဟာနုဘာဝါယ ဒါယကော ဝိရူ
ဟိတာယ ဇိနဝရကေသဓါတုယာ ဒါယကော ဘဝေယျ
န္တိ စိန္တေတွာ ဒေဝလောကတော ဩတရိတွာ နေသံ
ဆန္နံ အရဟန္တာနံ ပုရတော ပါတုရဟောသိ။

၅။ အထခေါ အနုရုဒ္ဓေါ ဣမံ ဂါထမာဟ။
အစ္ဆေရံ ဝတ လောကသ္မိံ၊ သဟာဿကျော သုစ္ဆတိ။
ပဗ္ဗ ဝိတ္ထုံ ဣမံ ဌာနံ၊ အာနုဘာဝေန ဓါတုယာ တိ။ ။

၆။ အထ ထေရော တံ ဒိသွာ ဒေဝရာဇ တွံ မဟိဒ္ဓိ ကော ဝရပဥ္ဉဿ ဓါတုယာ ဒါယကော ဟောဟိ တိ အာဟ။

၇။ တံ သုတွာ သက္ကော သာဓု ဘန္တေ တိ ဝတွာ အနုရုဒ္ဓဿ ထေရဿ ဟတ္ထတော ကေသဓာတုံ ဂဟေတွာ အတ္တနော သိရသ္မိံ ထပေတွာ ဥဒဂ္ဂစိတ္တော ဟုတွာ ဇဏ္ဍိ ယာ အာဝါဋံ မာပေတွာ တဿ အသီတိသာဝကာနံ ရူပံ ဗုဒ္ဓမာတုယာ ရူပံ ဗုဒ္ဓပိတုနော ရူပံ အနောပမဿ ဒသဗ လဿ ရူပဥ္စ သုဝဏ္ဏမယံ ထပေတွာ မနောသတ္တရတနရာ သိံ ကတွာ သမန္တတော သုဝဏ္ဏဇာလံ ပရိက္ခိပိတွာ သေ တစ္ဆတ္တံ ဥဿာပေတွာ တဿ ဟေဋ္ဌာ နာနာရတနသမုဇ္ဇ လံ ပလ္လင်္ကံ မာပေတွာ သဒဗလဿ ဓါတုံ သီသတော ဩရောပယိတွာ သက္ကာသိဂ်ါရောဒကေန နှာတွာ ဘန္တေ ဘဂဝါ ဣမသ္မိံ ဌာနေ သကလဇနဟိတတ္ထံ ပဉ္စဝဿ သဟဿ ပမာဏံ တိဋ္ဌာဟိ တိ ဝတွာ ထပေသိ၊

၈။ တံခဏေယေဝ စတုနဟုတာဓိက ဒွေသတ သ ဟဿ ယောဇနဗဟလာ အယံ မဟာပထဝီ ဥဒကပရိ ယန္တံ ကတွာ သံကမ္ပိ။ သိနေရုပဗ္ဗတရာဇာ ဩနမိ။ မဟာ သမုဒ္ဒေါ သံခုဘိ။ ဒသသဟဿ စက္ကဝါဠဒေဝတာ တုဋ္ဌ စိတ္တာ ဟုတွာ နာနာမင်္ဂလဘာဏ္ဍာနိ ဂဟေတွာ သဒ္ဒု ဆနာ ရူပံ ပူဇယိံသု။

၉။ အထ သတ္တော ဓါတုယာ ဥပရိ စေတိယံ စတ္တ ဝတ္တိမဏိသန္ဓိတံ မဏိပဒိပံ ပူဇေတွာ မဏိမယံ စေတိယံ အကာသိ။ တတ္ထ မဏိစေတိယာ ဗဟိ ကနကမယံ စေ တိယံ ကာရေတွာ အနာဂတေ အန္တရာယာဘာဝတ္ထံ စတ္တာနိ ပရိက္ခိပိတွာ စေတိယံ ဗန္ဓေသိ။

၁၀။ အာယာသွာ အနုရုဓ္ဓေါ တံဓါတုံ အတ္တနော အာ နိတာဘာဝပ္ပကာသနတ္ထံ အတ္တနော ပရိမာဏရူပံ ဥတ္တရိဒိ သာဘိမုခံ ကာရေတွာ ထပေသိ။

၁၁။ သတ္တော ဒေဝရာဇာပိ ဧကံ သုဝဏ္ဏရထံ ကာ ရေတွာ ဓါတုပူဇံ အကာသိ၊ စေတိယာဘိဒူရေ ဧကံ နိမိတ္တံ ထပေသိ၊ တံ ဧကံ ဒေဝပုတ္တံ ရက္ခာပေသိ။

၁၂။ သဗ္ဗေ ဆ အရဟန္တော သဋ္ဌာတ ဝိတိပါမောက္ခာ ဟုတွာ စေတိယံ ပဒ္ဓပတိမှိတေန ဝန္ဒိတွာ နိသီဒိံသု။

၁၃။ တသ္မိံ ခဏေ သတ္တော အဓိဋ္ဌာနံ ကရောန္တော ဣမံ ဂါထမာဟ။

ဓိရမေဝိဝ တိဋ္ဌတု ထူပဝရံ၊.......ယာဒိ တွံ မုနိနော သိရတောဝ ဘဝံ။
ဇနကာယသပိ ပဒိပါတုံ သဒါ၊—တဝ တေဇ ဝရေန ဇနောဘြ ရဝေါ။ ။

ဣတိ ဝတွာ တုဋ္ဌစိတ္တော ဟုတွာ စေတိယံ ပ ဒက္ခိဏံ ကတွာ ပဋ္ဌပတိမှိတေန ဝန္ဒိတွာ ပက္ကမိ။

သတ္တထူပဝံသော နိဋ္ဌိတော။

## ပဏ္ဍုရဋ္ဌထူပဝံသော

၁။ တဒါ အဝိဒူရေ ဒက္ခိဏဒိသာဘာဂေ တိဂါဝုတန္တရံ မဂ္ဂံ ဂန္တွာ သဗ္ဗေ ခီဏာသဝါ နာနာဝိဓ ဝါလုကာရာသိ ပရိကိဏ္ဏံ ပရမရမ္မဏီယံ ကေလာသပဗ္ဗတသန္နိဘံ ရုက္ခ တိဏ ပါသာဏ သက္ခရ ကထလရဟိတံ ကတသုဓါ ကမ္မမိဝဏ္ဏံ သကလဇနရမ္မဏီယံ ဧကံ ဌာနံ ဒိသွာ စိန္တယိံသု၊ သပ္ပါယမိဒံ ခေါ အာဝုသော ဌာနံ၊ ဣမသ္မိံ ဧကံ ကေသဓာတုံ အမှေဟိ ထပေတဗ္ဗန္တိ။

၂။ အထခေါ အာယသ္မာ သောဘိတော ဣမဿ ဓါတုဿဒါယက ပရိယောသနေ မမဘာရောတိ ဝတွာ ဧကံသံ ဥတ္တရာသံဂံ ကရိတွာ ဇာဏုမဏ္ဍလံ ပထဝိယံ နိဓာယ အဉ္ဇလိံ ပဂ္ဂယှ ဇိနဓါတုဝရံ ဝန္ဒိတွာ ပဏ္ဏနံ ကာရောန္တော ဣမံ ဂါထမာဟ။

ဒါယကောပတိပါတွဿ၊ တေဇသာ တဝ နာယက။
သဗ္ဗသတ ဟိတတ္ထာယ၊ ဣမံ ဌဿတိ စေ ဝရံ။

၃။ ဣစ္စေဝံ ပရမနိပစ္စာကာရံ ကတွာ ပဏ္ဏနံ ကာရောန္တဿေဝ ဝလာဟကဂဗ္ဘတော ပဏ္ဍုရဋ္ဌော နာမ ဒေဝပုတ္တော မဟန္တေဟိ ပရိဝါရေဟိ ပရိဝုတော နာနာဝိဓံ ပရမဒဿနီယတရံ အလင်္ကာရံ အလင်္ကရိတွာ သကဝိမာနတော ဩရုယှ တဒါ ပူရတော ပါတုရဟောသိ။

၄။ အထခေါ အာယသ္မာ သောဘိတော တံ ဒိသွာ ဥပါသက တွံ ဥဠာရာနုဘာဝေါ၊ အင်္ဂီရသဿ အပ္ပဋိမဿ ဘဂဝတော ဓါတုဒါယကော ဟောဟိ တိ အာဟ။

၅။ ပဏ္ဍုဋ္ဌော မဟာရာဇာပိ တံ ဝစနံ သုတွာ သာဓု ဘန္တေ၊ အဟမေဝ တဿ ဒါယကော ဘဝေယျန္တိ ဝတွာ တေနဟိ တွံ ဥပါသက ထူပဿ ဗန္ဓနဋ္ဌာနံ ဝိစာရေဟိ တိ အာဟ။

၆။ တသ္မိံ ခဏေ ပဏ္ဍုဋ္ဌော မဟာရာဇာ ဇာဏ္ဍိယာ ဌေကံ အာဝါဋံ ကရိတွာ တတ္ထ ဓါတုဂဗ္ဘံ မာပေတွာ တသ္မိံ သတ္တရတနမယံ အာသနံ ပညာပေတွာ ဝုတ္တပ္ပကာရံ အသီတိ မဟာသာဝကာနံ ဗိမ္ဗံ ဗုဒ္ဓဗိမ္ဗံ ဗုဒ္ဓမာတာပိတုန္နံ ဗိမ္ဗဉ္စ သုဝဏ္ဏမယံ ပဋိသင်္ခရိတွာ အာသန မဇ္ဈေ သတ္တရတနမယံ ဓါတုစင်္ကောဋကံ ထပေတွာ တံ ဇိနဓါတုဝရံ သဗ္ဗညုရံသိဟိ ဝိဇ္ဇောတမာနံ ဒိဗ္ဗဂန္ဓောဒကေန နှာပေတွာ ဣဓေဝ ဘန္တေ တိဋ္ဌတု သကလဇန ဟိတာယာတိ ဝတွာ ဆန္ဒံ အရဟန္တာနံ ရုစိံ ဂဟေတွာ တသ္မိံယေဝ စင်္ကောဋကေ ထပေသိ။

၇။ တသ္မိံ ခဏေ ဟေဋ္ဌာ ဝုတ္တပ္ပကာရေန ပထဝီ ကမ္ပနာဒီနိ အစ္ဆရိယာနိ အဟေသုံ။

၈။ အထခေါ ပဏ္ဍုဋ္ဌော မဟာရာဇာ ဓါတုဝရံ သဉ္ဇာတပေမော ဟုတွာ ဣမံ ဂါထမာဟ။

> ဇိံ မဟာနုဘာဝဿ၊ အသမဿ မဟေသိနော။
> ဓါတုယာ ဒါယကော အသ္မိ၊ အဟော မေ
> ပုညသဉ္စယော။ ။

ၜိုဝ် ဝတ္တ တံ ဘဂဝတော ကေသဓါတုံ ပဋ္ဌပတိမ္ဂြ တေနှ ဝန္ဒိတွ္တ အဇ္ဈနော ကာယာဝရုဋ္ဌပါရပနံ ဩဝ်မှုန္တိ တွ္တ ဒုလ္လဘ် ဝတ ဒဿနန္တိ ဝတွ္တ ဓါတုပူဇ် အကာသိ။

၉။ သဗ္ဗေပိဒေဝါ အဇ္ဈနော အနုရူပံ ပူဇ် ကရိံ သု။တတော ပဋ္ဌန္တော မဟာရာဇာ နာနာရတနမယာဟိ ဣဋ္ဌကာဟိ စေတိယံ ဗန္ဓာပေသိ၊စေတိယင်္ဂဏံပိ ဝိသော ဓါပေတွ္တ တဿ သမန္တတော ပါကာရံ ပရိက္ခိပိတွ္တ တဿာဝိနူရေ ၜကံ ပေါက္ခရဏိ မာပေတွ္တ စတူသု ဒိသာသု နိဓိယော နိဓေတွ္တ ဓါတုပူဇ် အကာသိ။

၁၀။ သဗ္ဗေ ခိဏာသဝါ (က) ဣဒံ စေတိယံ အနာ ဂတေ သတဗျာမံ ဘဝိဿတိ။ (ခ) မေရုရာဇာပိ ဣဓေဝ ဘဝိဿတီတိ ဗျာကရိံသု။

၁၁။ တံ ပန စေတိယံ သမန္တတော ကိင္ဒိဝိထိ ကာဒိနာ ထူပဿ ဝိစာရိတတ္တာ ပဋ္ဌာ သောဏ္ဍာယ စေတိယန္တိ ပါကဋံ။

ပဋ္ဌန္တထူပဝံသော နိဋ္ဌိတော။

---

## မဏိမေခလာထူပဝံသော။

၁။ အထခေါ သဗ္ဗေပိ ခိဏာသဝါ တတော နိဝတ္တိတွ္တ သမုဒ္ဒတီရေ သမန္တတော အဿောက ရုက္ခ သဏ္ဍန္တံ ၜကံ ဌာနံ အဒ္ဒသ။ ပဗ္ဗဝိမဒိဿာ ဘာဂေစဿ ကန္ဒရပရိက္ခိတ္တံ အဟောသိ။ တံ ဒိသွာ သဗ္ဗေ ခိဏာသ

ဝါ ဝိတ္ထယိံသု။ ကထံ ပနာဝုသော ဈာမသ္မိံ ပဒေသေ အမှေဟိ ပရိယေသိတမ္ပိ—ဓါတု ဒါယ ကတ္တာ ယာတိ။

၂။ အထခေါ အာယသ္မာ ပဒုမုတ္တရော တေသံ ပဉ္စန္နံ ခီဏာသဝါနံ ဧတဒဝေါစ။ အဟမေဝ ဓါတုဒါယကံ ပရိယေသေယျန္တိ ဝတွာ ဗုဒ္ဓဂုဏပဋိသံယုတ္တာယ ဂါထာယ အဓိဋ္ဌာနံ ကရောန္တော ဈာမံ့ဂါထမာဟ။

သစေ တုံ့ သဗ္ဗလောကဂ္ဂ ဇနောဃာ တရိတုံ ဈာမ။
ဣသယော တဝ တေဇေန၊ ပတ္ထနာ မေ သမိဇ္ဈတု။
အဇ္ဇ ထူပဿ ဒါယကံ၊ လဘေယျံ ဇိနသိရဇ။

၃။ ဈာမေ့ဝံ ပတ္ထနံ ကရောန္တဿ သမုဒ္ဒရက္ခိကာ မဏိမေခလာနာမ ဒေဝဓီတာ ဗုဒ္ဓါနုဘာဝေန တံဒိဿ မာနာဝိယ သဗ္ဗာဘရဏေဟိ အလင်္ကရိတွာ မဟန္တေဟိ ပရိဝါရေဟိ ပရိဝုတာ သမုဒ္ဒတောပညာယ မာနရူပါ ပါတုရဟောသိ။

၄။ အထခေါ ထေရာ ဝေမှဟံသု- ကပ္ပတိ ဥပါသိကေ ကေသဓါတုယာ ထူပံ ကာရေတုံ၊ သစေ သက္ကိဿသိ တွမေဝ အသမဿ ဓါတုယာ ဒါယိကာ ဟောဟီတိ။

၅။ အထဿာ တေဒဟောသိ အဟံ မာတုဂါမတ္တဘာဝေ ဋ္ဌိတာမှိ ထူပ ဝိဝိနေ ကထံ ဝိဝိနိဿာမိ ကထာဟံ ဘန္တေ ကရေယျန္တိ အာဟ။

၆။ သစေ ဥပါသိကေ ဈာမေသံ ပစ္စန္တဒေသဝါသိနံ

ဘတိံ ဒါတုံ သက္ခိဿသိ၊ ခိပ္ပမေဝ ဣတော စေတိယံ ကရိဿန္တီတိ အာဟ။

၇။ သာ သာဓူတိ ပဋိသုဏိတွာ အညာတကဝေသေန ဂန္တွာ တေသံ ဘတိံ ဒတွာ စေတိယံ ပဋိသင်္ခရာပေသိ။

၈။ တေ မနုဿာ တသ္မိံ ဌာနေ ဓာတုဂဗ္ဘံ အသီတိဟတ္ထဂမ္ဘီရံ ကရိံသု။

၉။ အထခေါ သာ ဒေဝဓီတာ ဇုဋ္ဌိယာ အာနီတရတနံ သမန္တတော ရာသိံ ကတွာ ဂိရိဝေပုလ္လတော စက္ကဝတ္တိနော မဏိရတနသဒိသံ ပဒိပံဝိယ ဇာလမာနံ ကေရတန ဃနမဏိံ ဓါတုဂဗ္ဘဿ မဇ္ဈေ ထပေသိ၊ တဿုပရိ ဓါတု ကရဏ္ဍကံ မာပေတွာ ထပေသိ။

၁၀။ သဟထပနေနေဝ မဟာပထဝီ ကမ္ပိ၊ အကာလဝိဇ္ဇုလတာ နိစ္ဆရိံသု၊ ရမဏီယဝဿံ ဝဿိ၊ သဗ္ဗေ ဒေဝါ သာဓုကာရံ အဒံသု။

၁၁။ တတော မဏိမေခလာ ဘဂဝတော ဓါတုယာ မဟာသက္ကာရံ ကတွာ စေတိယံ ဗန္ဓာပေသိ၊ ဗန္ဓိတွာစ ပန စေတိယေ နိဋ္ဌိတေ အဓိဋ္ဌာနံ ကရောန္တီ ဣမံ ဂါထမာဟ။

ပဉ္စဝဿ သဟဿာနိ၊ ဇိနဂန္ဓေပတိဋ္ဌတု။
တေဇေန တပိမေ သဗ္ဗာ၊....ဇာနန္တု အမတံ ပဒန္တိ။

၁၂။ ဧဝံ ဝတွာ ဒေဝဓီတာ....ပဿန္တု မဏိမေခလာ။
ထပေတွာ ကေသံ ထူပဿ၊ ဥဿာပေသိ သမန္တတော။

သာ တဒါ အရဟန္တာနံ၊......ပါဒေ နတွာန ဒေဝတာ။
ပဟာဋ္ဌစိတ္တာပက္ကမိ။......ပဝိဋ္ဌာ သကာဘဝနန္တိ။

မဏိမေခလာယ ထူပဝံသော နိဋ္ဌိတော။

---

## အဒ္ဓိက နာဝိက ထူပဝံသော။

၁။ တတော ဥတ္တရာယ ဒိသာယ သဗ္ဗေ အရဟန္တော ဂန္တွာ သာခါပလ္လဝလက္ခိတေ သီတစ္ဆာယေ ကောသမ္ဗံ နိဂြောဓရုက္ခေ အဓိဝတ္ထာ ဒေဝတာ တေ အာဂစ္ဆန္တေ ဒိသွာ ကိံ ဘန္တေ ဣဓ အာဂစ္ဆထာတိ ပုစ္ဆိတွာ တတော တေဟိ အာဝုသော ဣမံ ဌာနံ သပ္ပါယံ၊ ဣမသ္မိံ ဌာနေ ဧကံ ဇိနဝရ ကေသဓါတုံ ထပနတ္ထာယ အာဂတမှာတိ ဝုတ္တေ သာဓု ဘန္တေ အဟံပိ တုမှေဟိ သဒ္ဓိံ အနုမောဒနံ ကရေယျန္တိ အာဟ။

၂။ အထခေါ အာယသ္မာ ဂုဏသာဂရော ဓါတုပဋ္ဌကပရိယောသာနေ မမေဝ ဘာရော တိ ဓါတုပဋ္ဌကတ္တာယ အင်္ဂုလိံ ပဂ္ဂဟေတွာ အဓိဋ္ဌာနံ ကရောန္တော ဣမံ ဂါထမာဟ။

ဒါယကော သုလဘော ဟောတု၊ သစေ တွံ မုနိ မုဒ္ဒဇ၊
ဟိတာယ သဗ္ဗသတ္တဿ၊ ဌဿသိ သတတံ ဣဓ။ ။

ဧဝံ ဝတွာ တံခဏေ နမဿမာနောဝ နိသီဒိ။

၃။ တသ္မိံခဏေ ဇိနဓါတုယာ အာနုဘာဝေန ထေရာဓိဋ္ဌာနဗလေန စ သတ္တုအာဒိနံ အာနုဘာဝေန စ မန္ဒဝါတေန အာနီတာ ဝိညာတသာသနံ ဝါဏိဇ္ဇပရိ

ပုဏ္ဏာ ကော နာဝါတာယံ ယောဝ ပဒေသော အနုပတ္တာ အဟောသိ။

၄။ အထခေါ ဝါဏိဇ္ဇာ ဘိက္ခုသံဃံ ဒိသွာ "မယံ သမုဒ္ဒစရာ ဒုလ္လဘံ ဆန္နံ ခိဏာသဝါနံ သင်္ဃကံ ဥပ ဂန္တွာ သံဃဿ ဒဿနန္တိ" စိန္တေတွာ နာဝိကံ အာရော စေသုံ။

၅။ နာဝိကောပိ တံ သုတွာ သံဃေ ပသန္နမာနသော သဟ ဝါဏိဇ္ဇေဟိ မဟာနာဝါယ ဩရုယှ ခုဒ္ဒကနာဝံ အဘိရူဟိတွာ တေသံ ဆန္နံ ခိဏာသဝါနံ သင်္ဃကံ ဥပ ဂန္တွာ သံဃံ ဝန္ဒိတွာ ကိံ ဘန္တေ အယျာနံ ကိစ္စံ အတ္ထိတိ ပုစ္ဆိ။

၆။ မဟန္တံ ခေါ ဥပါသက ကောံ သဗ္ဗညု သရီရဓံ ဓါတုံ လောကဟိတတ္ထာယ ထူပနတ္ထံ ဂဏှိဂတာတိ။

၇။ တံ သုတွာ နာဝိကော တုဋ္ဌမာနသော တေ ဝါ ဏိဇ္ဇေ အာမန္တေတွာ လာဘာ ဝတ ဘော၊ သုလဒ္ဓံ ဝတ ဘော အမှေဟိ ယေ မယံ ဧဝံ မဟိဒ္ဓိကံ ဓနဟိတာ ဝဟံ သဗ္ဗညုသရီရဓါတုံ ပဿာမာတိ။ မဟာသမုဒ္ဒသ္မိံ ဘော စိရကာလံ သဉ္စရန္တာ ဤဒိသံ လာဘံ န လဒ္ဓပုဗ္ဗာ တိ။ တုမှေ မမ သဟာယာ ဘဝထ အဟမေဝ ထူပံ က ရေယျန္တိ အာဟ။

၈။ တေပိခေါ ဝါဏိဇ္ဇာ သာဓုတိ သမ္ပဋိစ္ဆိံသု၊ ရုက္ခဒေဝတာပိ မနုဿဝေသံ ဂဟေတွာ အဟံပိ တုမှာ ကံ သဟာယော ဘဝေယျန္တိ အာဟ။

၉။ တေ သဗ္ဗေပိ ထေရာနံ သန္တိကံ ဥပသင်္ကမိတွာ ယထာနုရူပံ ဒါနံ ဒတွာ ထေရေ ဝန္ဒိတွာ နိသီဒိံသု။

၁၀။ အထခေါ နာဝိကော အဟာမေဝ ဘန္တေ ဓါတုသုပကရဏော ဥဿုက္ကံ ကရေယျန္တိ ယာစိ။

၁၁။ ထေရာပိ သာဓု ဥပါသက ကရောဟီတိ အဟံသု။

၁၂။ နာဝိကော ပုရိသေ အာဏာပေတွာ ဗဟုဓနမ္ပိ ဝိဿဇ္ဇေတွာ ဓါတုဂဗ္ဘံ ကာရိတွာ တသ္မိံ ဂဗ္ဘေ သတ္တရတနာဒိ ပူရေတွာ ဂန္ဓသ မဏ္ဍေ ဖုဋ္ဌါရုပံ အာသနံ ပညာပေတွာ ဂုဏသာဂရထေရဿ ဟတ္ထတော တံ ဓါတုံ ဂဟေတွာ ထပေသိ။

၁၃။ သဟထပနေနေဝ သဗ္ဗာနိ အစ္ဆရိယာနိ ပါတုရဟေသုံ။

၁၄။ အထခေါ နာဝိကော ပဟဋ္ဌစိတ္တော ဣမံ ဂါထမာဟ။ လောကာစရိယာဘူတဿ၊ အသမဿ မဟေသိနော။ ဓါတုယာ ဒါယကော အသ္မိ၊ လာဘာ မေ ဝတ မာရိသာတိ။

၁၅။ ဧဝံ ဝတွာ စေတိယံ ပဉ္စပတိဋ္ဌိတေန ဝန္ဒိတွာ နာနာဝိဓ ဓဇပဋာကံ ဥဿာပေတွာ စေတိယံ ပဒက္ခိဏံ ကတွာ အရဟန္တာနံ ပါဒေ ဝန္ဒိတွာ ဝါဏိဇ္ဇေဟိ ပရိဝုတော နာဝံ အာရုဟိတွာ အတ္တနော နဂရံ နိယျာသိ။

၁၆။ ရုက္ခဒေဝတာ စေတိယံ တုသိတွာ ယာဝဇ္ဇ ကာလာပိ ဒီဃာယုကာ ဟုတွာ တံစေတိယံ ရက္ခတိ။

အဋ္ဌိကာနာဝိက ထူပဝံသော နိဋ္ဌိတော

## ဝရူဏာနာဂရာဇထူပဝံသော

၁။ တတော ပါဠိနဒီသာဘာဂေ ဂင်္ဂါတီရေ ကော် ရမ္မဏီယံ ဌာနံ အတ္ထိ။ ........သဗ္ဗေ ခီဏာသဝါ တတ္ထ ဂန္တွာ။ ဣဒံ ခေါ အာဝုသော ဌာနံ ဆာယူဒကသမ္ပန္နံ၊ ဣမသ္မိံ ဌာနေ ကော် ဓာတုံ နိဒဟိတုံ ဝဋ္ဋတီတိ။

၂။ အထ ခေါ ညာဏပဏ္ဍိတထေရော ဒါယကဝိ ဓိနန္ဒမမ ဘာရောတိ ဝတွာ ကော် ဓာတုမဉ္ဇူသံ ပထဝိ ယံ နိဓာယ အဉ္ဇလိံ သိရသိ ပတိဋ္ဌာပေတွာ ဂါထမာဟ။

ယောဓီရော လောကနာယကော၊ အသမော ပုရိသာ
သဘော။
စေအပိ ဓာတု တဿေဝ၊ လဘေယျံ ဝတ ဒါယကန္တိ။

၃။ ဧဝံ နိပစ္စကာရံ ကတွာ ကထေန္တဿေဝ ဧကော နာဂရာဇာ နာမေန ဝရုဏော နာမ သော နာဂ ဘဝနတော သပရိဝါရေန အာဂန္တွာ ထေရဿ ပူရ တော ပါတုရဟောသိ။

၄။ တဒါ နာဂရာဇာ ထေရေ ဝန္ဒိတွာ အာဂမန ကာရဏံ ပုစ္ဆိတွာ ဘဂဝတော ဓါတုယာ ထပနတ္ထာယ ဧဝ ဣဓါဂတမှာ ဥပါသ ကာတိ ဝုတ္တေ တေနဟိ ဘန္တေ ဓါတုစေတိယေ မမ ဘာရံ ကရောထာတိ ယာစိတွာ တေ ဟိ ဒိန္နောကာသော ဟုတွာ သကပရိသံ အာမန္တေတွာ ပဟဋ္ဌမာနသော ဟုတွာ ဓါတုဂဗ္ဘတ္ထာယ ပထဝိံ သော ဓါပေတွာ အာဝါဋံ ခဏာပေတွာ ဓါတုဂဗ္ဘံ ဒေဝဝိမာန သဒိသံ ကာရာပေတွာ တဿ မဇ္ဈေ ကေရတနမယံ

ပလ္လင်္ကံ မာပေတွာ သေတစ္ဆတ္တံ ဥဿာပေတွာ ဓါတု စင်္ကောဋကံ သီရသာ သမ္ပဋိစ္ဆိတွာ ဇာဏုံ အနန္တံ မဏိ ကရဏ္ဍကံ ကတွာ ပရမဂ္ဂသံ ပတ္တံ အာဒရံ ကတွာ ထေရာနံ ရုစိယာ အနုရူပမေဝ ထပေသိ။

၅။ တံခဏညေဝ ဟောဍ္ဍာ ဝုဍ္ဎပ္ပကာရာနိပိ သဗ္ဗ ပါဋိဟာရိယာနိ ပါတုဟောသုံ။

၆။ နာဂရာဇာပိ ဥဒဂ္ဂစိတ္တော ဟုတွာ အတ္တနော ပရိဘောဂံ အပရံပိ ဇော် မဏိရတနံ စက္ကဝတ္တိရညော မဏိသဒိသံ အနန္တံ သဗ္ဗကာမဒဒံ အတ္တနော ဂီဝတော ဩမုဉ္စိတွာ ဘဂဝတော ဓါတု ပူဇံ အကာသိ။

၇။ သဗ္ဗေ နာဂပရိသာ နစ္စန္တာ. ဂါယန္တာ သဗ္ဗတူရိယာနိ ဝါဒေန္တာ ဥဿောသိံသု၊ သဗ္ဗေ ဒေဝါ နာနပ္ပကာရံ သာဓုကာရံ အဒံသု။

၈။ တသ္မိံ ခဏေ နာဂေါ ဓါတုထူပံ ပရမ ဒဿနီယံ ကတွာ ဗန္ဓာပေသိ။

၉။ နိဋ္ဌိတေ ထူပေ နာဂေါ ပဒက္ခိဏံ ကတွာ ဩနတသီသော ဟုတွာ ဝန္ဒိတွာ ဣမံ ဂါထမာဟ။

ကပ္ပကောဋိဟိ ယံ ဗုဒ္ဓံ၊ ဒုလ္လဘံ အမတေပိ တံ။
ဓါတုယာ ဒါယကော အဟံ၊ ဘဝါမိ ကုသလတ္ထိ
ကောတိ။ ။

၁၀။ ဧဝံ ဝတွာန ဝရုဏော နာဂရာဇာ မဟိဒ္ဓိကော ပဟဋ္ဌစိတ္တော ပက္ကမိ နာဂေဟိ ပရိဝါရိတောတိ။

ဝရုဏ နာဂရာဇ ထူပဝံသော နိဋ္ဌိတော။

## သတ္တနာဝိက ထူပဝံသော

၁။ တတော ဥတ္တရာယ ဒိသာယ ဂန္တွာ ခီဏာသဝါ ဘိက္ခူ၊ နဝ္ဝာသန္တိ နာတိဒူရေ အဋ္ဌိကာနံ ဂမနာဂမနသမ္ပန္နံ ဧကံ ဌာနံ ဒိသွာ ဈာဒံ ယတိ ခေါ အာဂတော ဌာနံ သပ္ပါယံ၊ ဈာမသ္မိံ ဌာနေ အဝသိဋ္ဌံ ဧကံ ဇိနကေသဓါတုံ ထပေတဗ္ဗန္တိ။

၂။ အထခေါ အာယသ္မတော ရေဝတဿ ဧတဒဟောသိ သဗ္ဗေသံ ပစ္ဆိမ် အရဟန္တာနံ မနောရထော မဏ္ဍကံ ပတ္တော ဓါတုဒါယကပဋိလာဘောန၊ တထာဟံပိ ဈာမသ္မိံ ပဒေသေ ဧကံ ဒါယကံ လဘေယျံ၊ ယံနူနာဟံ ဓါတုထူပဒါယကဿာယ ပဋ္ဌနံ ကရေယျန္တိ။

၃။ အထခေါ ရေဝတထေရော သဗ္ဗရိ ပရမဥက္ကံ သပတ္တံ အာဒရံ သမ္ပါဒေတွာ ဧဝမာဟ သစေ ဘန္တေ ကပ္ပသတသဟဿာဝဓိကာနိ စဏ္ဍာရိ အသင်္ချေယျာနိ ပါရမိယော ပူရေတွာ ပဉ္စမဟာပရိစ္စာဂံ ပရိစ္စဇိတွာ ဒေဝမနုဿေဟိ ဒုက္ကရံ ကမ္မံ ကရိတွာ ဗုဒ္ဓဘာဝံ ပတ္တော အသိ၊ အဇ္ဇ တဝ နိဗ္ဗာနေ ထူပဒါယကော ဈာခါနုပ္ပတ္တော ဟောတူတိ အဓိဋ္ဌာနံ ကတွာ ဈာမံ ဂါထမာဟ။

သစေ လောကဟိတတ္ထာယ၊ အနုဇာနိဝ နာယကော။
ဓါတုထူပဿ ဒါယကံ၊ လဘေယျံ တေဇသာ တဝါတိ။

၄။ ဧဝံ ပတ္ထယန္တဿေဝ ဒမိဠဝါဏိဇာ သဒ္ဓါ သမ္ပန္နာ သဗ္ဗမဟာနာဝါ ဝိနာ ဝါတဝေဂေန အာနီတာဝိယ ဟုတွာ အညံ ဒေသံ ဂန္တုံ အသမတ္ထာ တသ္မိံယေဝ ဌာနေ အနုပ္ပတ္တာ အဟေသုံ။

၅။ တေပိခေါ ဝါဏိဇာ ဒူရတော ဘိက္ခုသံဃံ ဒိသွာ ဒါနံ ဒါတုကာမာ ဇေဋ္ဌနာဝိကံ အာရောစေသုံ။

၆။ တံ သုတွာ နာဝိကော တေနဟိ အဟမ္ပိ ဂမိဿာမိတိ ဝတွာ အညေဟိ နာဝိကေဟိ ပရိဝုတော တေသံ သန္တိကံ ဂန္တွာ ခီဏာသဝါနံ ဒါနံ ဒတွာ ပယိရုပါသိတွာ တေ ခီဏာသဝေ ပုစ္ဆိံသု ကိံ ပနိဓ ဘန္တေ အာဂတတ္ထာတိ။

၇။ ဒသဗလဿ ပုရိသာဇညဿ ဘဂဝတော ကေသဓါတုံ ပါဏိနံ ဟိတာယ ထပေတုံ အာဂတမှာတိ အဟံသု။

၈။ အထခေါ တေသံ သတ္တန္နံ နာဝိကာနံ ဝါဏိဇာနဉ္စ ဧတဒဟောသိ။ မယံပိ ပုဗ္ဗေ ဘဂဝတော ဒဿနကာလေ ဆဗ္ဗဏ္ဏရံသီဟိ ဇလမာနသရီရံ ပဿိမှာ။ ဣဒါနိ ဘဂဝတော သီသကေသဓါတုယာ အာနုဘာဝေါ ကီဒိသောတိ စိန္တယန္တာနံ ကင်္ခါ ဥပ္ပဇ္ဇတိ။

၉။ တေသံ ကင်္ခစ္ဆေဒနတ္ထံ ကေသဓါတု ပါဋိဟာရိယံ အကာသိ။

၁၀။ တေနဝုတ္တံ —

ဒဿေတိ ဓာတုယော ရတ္တိ၊ ယမကံ ပါဋိဟာရိယံ။
ကဏ္ဍမ္ဗမူလေ ပဏ္ဏာဝ၊ လောကစက္ခုပိနယန္တိ။ ။

၁၁။ အထခေါ တေပိ နာဝိကာ ဝါဏိဇ္ဇာ စ တံ ပါဋိဟာရိယံ ဒိသွာ သဉ္ဇာတသဒ္ဓါ ဟုတွာ အတ္တနော အတ္တနော အနုရူပံ ပူဇာသက္ကာရံ ကရိံသု၊ ဓာတုယော သက္ကာရံ ကတွာ ခီဏာသဝါနံ သန္တိကံ ဂန္တွာ ထူပကာရဏောကာသံ ယာစိတွာ ခီဏာသဝေဟိ ဒိန္နောကာသာ တေ နာဝိကာ ဝါဏိဇ္ဇာ ဝုတ္တနယေနေဝ ဓာတုဂဗ္ဘံ ကာရေတွာ တသ္မိံ သဗ္ဗရတနံ ရာသိံ ကတွာ ဗုဒ္ဓါရဟံ အာသနံ ပညာပေတွာ တေလပဒီပံ ဇာလေတွာ ဗုဒ္ဓဗိမ္ဗံ အသီတိသာဝကာနံ ဗိမ္ဗဉ္စ ကာရေတွာ မဇ္ဈေ သုဝဏ္ဏစင်္ကောဋကံ ထပေတွာ ရေဝတထေရဿ ဟတ္ထတော အနောပမံ ကေသဓာတုံ သမ္ပဋိစ္ဆိတွာ ဂန္ဓောဒကေန နှာပေတွာ သုဝဏ္ဏရဇတမယေဟိ ပုပ္ဖေဟိ ဒီပေဟိ စ ဓာတုံ ခမာပေတွာ စင်္ကောဋကေ ထပေသုံ။

၁၂။ တံ ခဏညေဝ ဟေဋ္ဌာ ဝုတ္တပ္ပကာရာနိ ပထဝိကမ္ပနာဒီနိ အစ္ဆရိယာနိ ပါတုရဟေသုံ၊ ဒသသဟဿစက္ကဝါဠဒေဝတာ သာဓုကာရံ အဒံသု။

၁၃။ တေ နာဝိကာ စေတိယံ ဗန္ဓိတွာ နိဋ္ဌိတေ စေတိယေ အနေကပ္ပကာရံ ဓဇပဋာကံ သမုဿာပေတွာ စေတိယံ ဝန္ဒိတွာ ဘန္တေ မယံ ဒမိဠဥပါသကာ အညံ သမ္ဘာသတံ ကေသဓာတုံ သဒ္ဒဟိတွာ ဝေရုပံ ကာရေမာတိ အာဟံသု။

၁၄။ တတော တံစေတိယံ သဒ္ဓါယ ကာရိတတ္တာ သဒ္ဓါစေတိယန္တိ ဝဒန္တိ။ ဒမိဠေဟိ ကာရိတတ္တာ ဒမိဠစေတိယန္တိပိ ဝဒန္တိ။

၁၅။ တေပိခေါ နာဝိကာ ဝါဏိဇ္ဇာ စေတိယံ ခမာပေတွာ အရဟန္တာနံ ဒါနံ ဒတွာ သကသကနာဝံ အာရုယှ ပက္ကမိံသု။

၁၆။ ဆဝိဂါထာသတံ ပရိပုဏ္ဏသက်ပ္ပါ အဟောသုံ။

သတ္တနာဝိကထူပဝံသော နိဋ္ဌိတော။

---

၁၇။ တဗ္ဗိဒေသံ ကေသဓါတူနံ နိဝါသနဋ္ဌာနတ္တာ ကေသဝတီတိ နာမံ အာလပတိ။

ဆကေသဓါတုဝံသော နိဋ္ဌိတော။

---

ကေသဓါတုဝံသော ဂန္ထော၊ သဗ္ဗဇနပသာဒကော၊
ယံမယာ လိခိတော တေန၊ ပညဝါ ဟောမိ နာဂတေ။
သဒ္ဓါဓနံ သီလဓနံ၊ ဟိရိဩတ္တပ္ပိယံ ဓနံ၊
သုတဓနဉ္စစာဂေါစ၊ ပညာ ဝေ သတ္တမံ ဓနံ။ ။
ဉာဏေဟိ သတ္တဓနေဟိ၊ သမ္ပန္နောစ ဘဝါမဟံ၊
ဉာဏိန္ဒိ တဗ္ဗံ ဝရံ မယှံ၊ ဇိန္နံ ပုဏ္ဏောဝ စန္ဒိမာ။ ။
ရတနံ ဒေဝယာမာနံ၊ ဘောဂေန္တော တေသံ ကရောမဟံ၊
သဟာသာနံ ဟိတံဂေဟံ၊ ဉာဏ္ဍဗြဟ္မာဟိ ပူဇိတံ။ ။

( ဥနန္ဒဝံသ )

# ပြည့်တော်သာ အင်္ဂါများ

—း၀း—

နေ လ ကြိုက်သွား၊ ဖြောင့်သားတဖြာ၊ မိုးမှန်စွာနှင့်၊ ဩဇာတက်ဖြိုး၊ သီးမျိုးပေါ်ယာယ်၊ အန္တရာယ်ကင်းငြိမ်း၊ မုဒိမ်းမထွက်၊ စစ်မက်လည်းကင်း၊ ချင်းချင်းညီညွတ်၊ ဖြောင့်မတ်တရား၊ သုံးပါးရတနာ၊ ရှိသေစွာလျက်၊ သင်္ဃာရဟန်း၊ စောင့်မှန်းအကျင့်၊ ဤဆယ်ဆင့်ကား၊ လင်းပွင့်တိုင်းပြည်၊ သာကြောင်းမည်၏။

တတည့် မှတ်ရာ၊ ကျမ်းအလာဖြင့်၊ လယ်ယာ လုပ်မျိုး၊ ပြည့်ဖြိုး ပြောစည်၊ ကုန်သည် ဖြစ်ပေါ်၊ သဘော ကျင့်မြတ်။ ရှူးမတ်ပည်းဖြင်၊ ကြွားမြင်သူတ၊ သီလရှိမှန်း၊ ရဟန်းသင်္ဃာ၊ အရိယာများပြား၊ ဤလေးပါးလည်း၊ တိုင်းကား ရွှေပြည်၊ သာကြောင်းမည်၏။

(မဃဒေ၀ လင်္ကာ)

# ၁။ ပဏာမ ပဋိညာဉ်

၁။ အညွှန်းအဖျား မြတ်ဘုရားနှင့် တရားစင်ကြယ် သံဃာ လယ်ကောင်း သုံးပါးပေါင်းကို ညွှတ်ပျောင်းရှိကြိုး ရှိခိုးပါ၏။ ရှိခိုးပြီးမှ ခြောက်ဆူသတ်မှတ် ဆံတော်ဓာတ်၏ တည်ရပ်ဖြစ်အင် ထူပဝင်ကို ပေါ်လွင်ထင်ရှားသာသနာတော် စည်ပင်ကြီးပွါးစေခြင်းငှါ ရေးသားပါပေအံ့။

## ဘုရားရှင်၏ ဆံတော်ခြောက်ဆူ

၂။ အခါတပါး ငါတို့ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ အစ, အလယ်, အဆုံး, သုံးပါးသောကောင်းခြင်းနှင့် ပြည့်စုံ၍ သန့်ရှင်းစင်ကြယ် အနက်သဒ္ဒါတို့နှင့် ပြည့်စုံကြွယ်ဝသော တရားစကားကို ဟောကြား တော်မူလျက် ချမ်းသာစွာ သီတင်း သုံးနေတော်မူလေ၏။

၃။ ထိုအခါ အရှင်အနုရုဒ္ဓါ အရှင်သောဘိတ အရှင်ပဒုမုတ္တရ အရှင်ဂုဏသာဂရ အရှင်ဉာဏပဏ္ဍိတ အရှင်ရေဝတ အားဖြင့် ခြောက်ပါးသော ရဟန္တာအရှင်မြတ်တို့သည် စိတ်ဆန္ဒတူစွာ ဘုရားရှင်ထံ ချဉ်းကပ်၍ ဤသို့လျှောက်ကြားကြလေကုန်၏။

၄။ ဘုန်းတော် ကြီးတော်မူသော မြတ်စွာဘုရား-ရှင်တော်မြတ် ဘုရားတို့သည် သတ္တဝါတစ်ပ် တဒေသတို့၏ အစီးအပွါး အလို့ငှါ အမှုသုံးဆယ်သော ပါရမီတို့ကိုဖြည့်ကျင့်ကြသည်ဟုတ်ပါ။သတ္တဝါအားလုံးတို့၏

အစိုး အပွါးအလို့ငှါ ဖြည့်ကျင့်တော် မူကြပါသည်။ အနီး အနားဌ် နေသော သတ္တဝါတို့မှာ ရှင်တော်ဘုရားအား ဖူးမြင်ရခြင်းဖြင့် ပဋ္ဋပ္ပန် တမလွန် နှစ်တန်သော အကျိုး တို့သည် ပြည့်စုံကြပါပြီ။ အဝေးဌ် နေသော သတ္တဝါတို့ အလို့ငှါ ဘုရားရှင်၏ ကိုယ်တော်နှင့် စပ်သော ပူဇော် စရာဝတ္ထုကို တည်ထားသင့် ပါသည်။ မဟာသမုဒ္ဒြာနှင့် မနီးမဝေးသော တချသော ပစ္စန္တရာဇ် အရပ်ဌ် များစွာ သော လူတို့ နေကြပါသည်။ ထိုလူတို့အား သနားသော အားဖြင့်ပူဇော်စရာ ပေးသနားတို့ သင့်ပါသည်ဘုရားဟု လျှောက်ထားကြ လေကုန်၏။

၅။ ထိုအခါဘုရားရှင်သည် မဟာ ကရုဏာတော် ဖြင့် တိုက်တွန်း အပ်သော စိတ်ရှိတော်မူသည် ဖြစ်၍ နှဇပုဒ်သားတို့အား ချီးမြှောက်ခြင်းငှါ လကျာလက်ဖြင့် ဦးခေါင်းတော်ကို သုံးသပ်တော်မူ၏။ ထိုအခါ ကြည်နူး စဘွယ် တင့်တယ်ထိန်ဝင်း အဆင်း အရောင် တောက် ပြောင်လှုလှု ဆံတော်ခြောက် ခြောက်ဆူတို့သည် ဘုရား ရှင်၏ လက်တော်ဌ် ကပ်ငြိကုန်၏။ ဘုရားရှင်သည် ထိုခြောက်ပါးသော ရဟန္တာအရှင်မြတ်တို့အား ထိုဆံ တော်ခြောက်ဆူတို့ကို ပေးသနားတော် မူလေ၏။

၆။ ထိုခြောက်ပါးသော အရှင်မြတ်တို့သည်လည်း ဝမ်းမြောက် ႁ႓င်လန်းသော စိတ်ဖြင့်မိမိဦးခေါင်းဖြင့်သာ အသီးအသီး ခံယူတော် မူကြလေကုန်၏။

၇။ ထိုအခါ အရှင်အာနန္ဒာသည် ဘုရားရှင်ကို-မြတ် စွာ ဘုရား-ထိုဇနပုဒ်သားတို့အား ရှင်တော်မြတ်ဘုရား၏

ဆံတော်ခေတ်တို့ကိုအမှီပြု၍ အနတ္တရာယ်ကင်းခြင်းသည် ဖြစ်ပါလိမ့်မည်လော ဟု မေးလျှောက်လေ၏။

၇။ ချစ်သားအာနန္ဒာ......ထိုဇနပုဒ်သားတို့အား ဆုတ်ယုတ်ခြင်းကို မမြင်။ ကြီးပွါးခြင်းကိုသာ ငါဘုရား မြင်တော်မူ၏ ဟု မိန့်တော်မူပြီးလျှင်—

**(က) ချစ်သားအာနန္ဒာ ငါဘုရား ပရိနိဗ္ဗာန်စံပြီးသည့်နောက် ငါဘုရား၏ သာသနာတော်သည် အနှစ်ငါးထောင်ပတ်လုံး တည်ရစ်လတံ့။**

**(ခ) ဤခြောက်ဆူသော ဆံတော်ဓါတ်တို့သည် နှစ်ပေါင်း နှစ်ထောင့်ငါးရာပတ်လုံး ဆင်းရဲကုန်လတံ့။ ဝါ၊ ပူဇော်ခြင်းနည်းပါးလတံ့။**

**(ဂ) နှစ်ပေါင်းနှစ်ထောင့်ငါးရာ လွန်သောအခါ ကြီးပွားသော ပူဇော်သက္ကာရဖြစ်လတံ့။**

**(ဃ) တဆူတဆူသောစေတီသည် လူပေါင်းများစွာ ဖွဲ့စည်းအပ် တည်ထောင်အပ်သော စေတီဖြစ်လတံ့ ဟု ဗျာဒိတ်စကား မိန့်ကြားတော်မူလေ၏။**

၈။ ထိုသို့ ဗျာဒိတ်စကား မိန့်ကြားပြီးသောအခါ အရှင်အာနန္ဒာသည် ဘုရားရှင်ကို ရှိခိုး၍ ကြွသွားတော်မူလေ၏။

## သက္ကထူပဝင်

၁။ ထိုခြောက်ပါးသော ရဟန္တာ အရှင်မြတ်တို့သည်လည်း ဆံတော်တို့ကို ရသဖြင့် ဘုရားရှင်ကို ရှိခိုး၍

အရှင်အနုရုဒ္ဓါနှင့်အတူကြွသွားတော်မူကြပြီးလျှင်ကောင်း ကင်ခရီးဖြင့် ထိုပစ္စန္တရာဇာအရပ်၌ သက်ဆင်းကြကုန်၏၊ ထိုသက်ဆင်းရာ အရပ်၌ တည့်မှ သီတင်းသုံးတော်မူ ကြပြီးလျှင် နံက်အခါ ကိုယ်လက် သုတ်သင်ခြင်းကို ပြု၍ ဆွမ်း ခံ ဝင် တော် မူ ကြ ၍ ရ တတ် သ မျှ အာဟာရကို သာ သုံးဆောင်တော်မူကြကုန်၏။

၂။ အလုံးစုံသော အရှင်မြတ်တို့သည် ထိုအရပ်မှ တောင်ဘက်သို့ ကြွတော်မူကြသဖြင့် အညွန့်အခက် ရောယှက်ခြိုင်ခြိုင်တောဂနိုင်လွှမ်းခြုံ နေအာရုဏ်အဆင်းကြို့ သကဲ့သို့ ကုန်းခင်းမို့မို့ မြေလျှော်စရာ မြေအတို့ကို မြင် တော်မူကြ၍ ဝမ်းမြောက်လှစွာ ဤနေရာ၌ ဘေးရန်လွတ် ကင်း ချမ်းသာခြင်းဖြစ်လတံ့။ ဤနေရာ၌ ဆံတော်ဓာတ် တဆူကို သိုမှီးကာ ဌာပနာ၍ စေတီတည်ခြင်းငှါသင့်၏ ဟု တိုင်ပင်ကြပြီးလျှင် ငါ့ရှင်တို့-ဤနေရာ၌ ငါတို့သည် ဆံတော်ဓာတ်၏ ဒါယကာကို အဘယ်သို့လျှင် ရနိုင်အံ့ နည်း ဟု အကြံဖြစ်ကြပြန်လေ၏။

၃။ ထိုအခါ အရှင်အနုရုဒ္ဓါသည် လက်အုပ်ချီမိုး ရှိခိုးလျက် ရှင်တော်မြတ်ဘုရားသည် ရှေးအခါ ၌ အသက် ဥစ္စာ အင်္ဂါ တိုင်းကား မိမိသား မယားကို အများအပြား လှူဒါန်းခဲ့ဘူးပြီ။ ထို ကြောင့် သာလျှင် သဗ္ဗညုတ ဥာဏ်တော်ကို ရ တော် မူ သည် စင်စစ် အကယ်၍ ဖြစ်ခဲ့အံ့၊ ယခုအခါ ဤနေရာ၌ လုပ်ကျွေးသမှု ကောင်း

စွာ ပြုတတ်သော ဒါယကာသည် ပေါ်ပေါက်
လာပါစေသတည်း........ဟု
မိဋ္ဌာန်သောအားဖြင့် မြွက်ဆိုလေ၏။

၄။ ထိုခဏ၌သာလျှင် သိကြားမင်းအား ပဏ္ဍု ကမ္ဗလာ ကျောက်နေရာသည် ပူလောင်သော အခြင်းအရာကို ပြလေ၏။ သိကြားမင်း ဆင်ခြင်လတ်သော် ထိုအကြောင်း သိရ၍ ငါ့အား အရတော်လေစွ၊ ဤသို့ ဒါယကာ မပေါ်ပေါက်သေးသော ဘုရားမြတ်၏ ဆံတော်ခေတ်အလို့ ၌၊ ငါသိကြားမင်းသည် ဒါယကာ ဖြစ်ရပေတော့အံ့။ အရတော်လေစွ........ဟု ကြံ၍ နတ်ပြည်မှ သက်ဆင်းပြီးလျှင် ရဟန္တာအရှင်မြတ် ခြေဖက်ပါးတို့၏ ရှေ့တော်၌ ထင်ရှားစွာ ဖြစ်ပေါ်လေ၏။

၅။ ထိုအခါ အရှင်အနုရုဒ္ဓါမထေရ်သည်........ အိုအချင်း
တို့ လောက၌ အံ့ဩဘွယ် ရှိလေစွ တကား။
မျက်စိအမြင် တထောင်ရှိသော သုဇာသခင်
သိကြား နတ်မင်းကြီးသည် ဆိတ်ငြိမ်လှစွာ ဤ
နေရာသို့ ဆံတော်ခေတ်၏ တန်ခိုးတော်ကြောင့်
ရောက်လာပေပြီတကား ဟု မြွက်ဆိုလေ၏။

၆။ ဤသို့ မြွက်ဆိုပြီးလျှင် မထေရ်သည် သိကြားမင်းကို မြင်၍ အိုသိကြားနတ်မင်း အသင်သည် ကြီးသော တန်ခိုးရှိ၏။ ဘုရားရှင်၏ ဆံတော်ခေတ်အလို့ ၌ ဒါယကာဖြစ်ပါလော ဟု မိန့်ဆိုလေ၏။

၇။ ထိုစကားကို ကြားလျှင် သိကြားမင်းသည်လည်း ကောင်းလှပါပြီ အရှင်ဘုရားဟု ဝန်ခံ၍ အရှင်အနုရုဒ္ဓါ မထေရ်မြတ်၏ လက်တော်မှ ဆံတော်ခါတ်တဆူကို ယူပြီးလျှင် မိမိဦးခေါင်း၌ တင်ထား၍ ဝမ်းမြောက်ဝမ်းသာ တန်ခိုးအားဖြင့် တွင်းတခုကို ဖန်ဆင်းလေ၏။

ထိုတွင်း၌ ရွှေဖြင့်ပြီးသော ရှစ်ကျိပ်သော မဟာသာဝကတို့၏ ရုပ်တုတော်၊ မယ်တော် မာယာ၏ ရုပ်တု ခမည်းတော် သုဒ္ဓေါဒန မင်းကြီး၏ ရုပ်တုနှင့်တကွ နှိုင်းယှဉ်အပ်သူမရှိသော အားဆယ်ပါးနှင့် ပြည့်စုံတော်မူသော ဘုရားရှင်၏ ရုပ်တုတော်တို့ကို ထားပြီးလျှင် အလယ်၌ ရတနာခုနစ်ပါး အစုပြု၍ ထက်ဝန်းကျင်မှ ရွှေကွန်ယက်ကို ကာရံလျက် ထီးဖြူကို စိုက်ထူလေ၏။ ထီးဖြူအောက်၌ ရတနာအထူးထူးတို့ဖြင့် တောက်ပသော ပလ္လင်ကို ဖန်ဆင်း၍ ဘုရားရှင်၏ ဆံတော်ခါတ်ကို ဦးခေါင်းမှ ချ၍ သိကြားမင်း၏ ကယားမှ ရေဖြင့် ရေသပ္ပါယ်ပြီးလျှင်မြတ်စွာဘုရား........ဘုန်းတော်ကြီးမား ရှင်တော်ဘုရားသည် ဤနေရာဌာန၌ အလုံးစုံသောလူတို့၏ အစီးအပွါးအလို့ငှါ နှစ်ပေါင်းငါးထောင်ပတ်လုံး တည်နေတော်မူပါဘုရား ဟု မြွက်ဆိုကာ ထားလေ၏။

၈။ ထိုခဏ၌ သာလျှင် ယူဇနာ နှစ်သိန်း လေးသောင်းအထုရှိသော ဤမဟာပထဝီမြေကြီးသည် ဝဲယာ ငြိမ့်ငြိမ့် မြင့်နိမ့်သက်တက် ဒိုးထိန်းစက်ပုံ တုန်လှုပ်လေ၏။ မြင့်မိုရ်တောင်မင်းသည် ဦးညွတ်သကဲ့သို့ ပြုလေ၏။

မယာသမုဒြာသည် ခြောက်ချားလေ၏။ စကြာ ဝဠာ တသောင်း၌ နေသော နတ်တို့သည် ဝမ်းမြောက်လှစွာ မင်္ဂလာအထူးထူးရှိသော ဘဏ္ဍာတို့ကိုယူ၍ ဘုရားရှင်၏ ရုပ်တုတော်ကို ပူဇော်ကုန်၏။

၉။ ထိုအခါ သိကြားမင်းသည် ဆံတော်ခေတ်၏ အထက်၌ စကြာဝတေးမင်း၏ ပတ္တမြားနှင့် တူသော ပတ္တမြားမီးတိုင်ကို ပူဇော်၍ ပတ္တမြားစေတီ ပြုလေ၏။ ပတ္တမြားစေတီ၏ အပ၌ ရွှေစေတီကို ပြုစေ၍ နောင်အခါ အန္တရာယ်မရှိစိမ့်သောငှါ ယန္တရားစက်တို့ကို ခြံရံလျက် စေတီကို ဖွဲ့စည်း တည်ထားလေ၏။

၁၀။ အရှင်အနုရုဒ္ဓါမထေရ်မြတ်သည် ထိုဆံတော် ခေတ်ကို မိမိဆောင်ကျဉ်းလာသည်အဖြစ်ကို ထင်စွာပြခြင်းအကျိုးငှါ မိမိ၏ လုံးရုပ်ပမာဏ တူမျှသော ရုပ်တုတော်ကို မြောက်ဘက်အရပ်သို့ မျက်နှာမူလျက်ရှိအောင် တည်ထားလေ၏။

၁၁။ သိကြားမင်းသည်လည်း တခုသော ရွှေရထားကိုပြုစေ၍ ဆံတော်ခေတ်ကို ပူဇော်သျှပြု၏။ စေတီတော်၏ မနီးမဝေး၌ တခုသော ရွှေအိုးကို ထား၏။ ထိုရွှေအိုးကို တယောက်သောနတ်ကို စောင့်ရှောက်စေလေ၏။

၁၂။ ခြောက်ပါးသော ရဟန္တာအရှင်မြတ်တို့သည် နှစ်သက် ရွှင်လန်းဝမ်းမြောက်လှစွာ စေတီတော်မြတ်ကို (ဒူးနှစ်ဘက် လက်ဝါးနှစ်ဘက်၊ဦးခေါင်းဟူသော) အင်္ဂါငါးပါး ပြားပြားဝပ် တည်အောင် ရှိခိုး၍ ထိုင်နေကြလေကုန်၏။

၁၃။ ထိုအခါ သိကြားမင်းကြီးသည်....
ရှင်တော်မြတ်ဘုရားသည် သက်ထော်ထင်ရှား
မြတ်စွာဘုရား၏ ဦးခေါင်းတော်မှသာလျှင် ဖြစ်
သော ဆံတော်စင်စစ် အကယ်၍ ဖြစ်ပါအံ့
စေတီတော်မြတ်သည် ဤနေရာ၌ ကြာမြင့်စွာ
သာ တည်နေပါစေသတည်း။ လူအပေါင်း
အားလည်း အခါခပ်သိမ်း ထင်စွာ ပြတော်မူ
ပါစေသတည်း။ ရှင်တော်မြတ်၏ တန်ခိုးတော်
ကြောင့် ဤအရပ်၌ နေသော လူအပေါင်းသည်
မြဲမြဲခိုင်ခန့်တည်တန့်ပါစေသတည်း....ဟု
မိန့်ဆွာန်သောအားဖြင့် မြွက်ဆိုလေ၏။ ဤသို့ ဆိုပြီးလျှင်
ဝမ်းမြောက်လှစွာ စေတီတော်ကို လက်ျာရစ် လှည့်ကာ
ရှိခိုး၍ ထွက်သွားလေ၏။

သင်္ကာထုပဝင်ပြီး၏။

---

## ၂။ ပဋ္ဌာန္တုထုပဝင်

၁။ သိကြားမင်း စေတီတော်နှင့် မနီးမဝေးတောင်
ဘက်အရပ် သုံးဂါဝုတ် အတွင်း လမ်းခရီးသို့ ခြောက်
ပါးသော ရဟန္တာသခင် အရှင်သူမြတ်တို့ ကြွသွားကြ
သဖြင့် အထူးထူးသော ထဲအရပ်ဖြင့်ပြွမ်းသော အလွန်မွေ့
လျော်စရာ ဟိမဝန္တာအနီးကေလာသတောင်ကြီးနှင့် တူ
လှစွာသော သစ်ပင်,မြက်ပင်,ကျောက်ခဲ ကျောက်စရစ်,
အိုခြင်း တို့မှကင်းသော အင်ကော်ဖြင့် ပြိုးပြက်စွာ ပြုအစ်

သော မြေအပြင်ကဲ့သို့ လူအားလုံးတို့၏ မွေလျော်စရာ တခုသောနေရာကို မြင်ရလျှင် ငါ့ရှင်တို့- ဤနေရာသည် လျောက်ပတ်လှ၏။ ဤနေရာ၌ ဆံတော်ဓာတ် တဆူကို ငါတို့ တည်ထားသင့်၏ ဟု ကြံစည်ကြကုန်၏။

၂။ ထိုအခါ အရှင်သောဘိတသည် ဤဆံတော်ဓာတ်အလို့ငှါ ဒါယကာ ရှာဖွေရေး၌ ငါ၏တာဝန်တည်း ဟု ဆို၍ လက်ဝဲဘက် ပခုံးထက်၌ ကိုယ်ဝတ်စမ္ပါယ် တင်ပြီးလျှင် ပုဆစ်ဒူးကို မြေ၌ထောက်၍ လက်အုပ်ချီကာ ဆံတော်ဓါတ်မြတ်ကို ရှိခိုးလျက်—

' မြတ်စွာဘုရား........ဤနေရာ၌ နတ်လူတို့ တောင့်တအပ်သော စေတီတော်မြတ်သည် သတ္တဝါအားလုံးတို့၏ အစီး အပွါးအလို့ငှါ တည်တန့်နိုင်မည် ဖြစ်ခဲ့ငြားအံ့၊ ရှင်တော်မြတ်၏ တန်ခိုးတော်ကြောင့် ယခုအခါ ဒါယကာ ထင်ရှားစွာ ပေါ် ပေါက် လာ ပါစေသတည်း.... ဟု တောင့်တလျက် မြွက်ဆိုလေ၏။

၃။ ဤသို့ အလွန်ရှိသေစွာ တောင့်တခြင်း ပြုစဉ်သာလျှင် တိမ်တိုက်မှ ပဋ္ဌာန်းနတ်သားသည် များစွာသော အခြံအရံနှင့်တကွ အလွန်ရှုချင်စရာ တန်ဆာဆင်၍ မိမိ ဗိမာန်မှ ဆင်းသက်လာပြီးလျှင် အရှင်သောဘိတ၏ ရှေ့တော်၌ ထင်ရှားစွာ ရောက်လာလေ၏။

၄။ ထိုအခါ အရှင်သောဘိတသည် ထိုမြင်းနတ်သားကို မြင်၍ ဒါယကာနတ်သား သင်သည် ကြီးသော တန်ခိုးရှိ၏၊ အတုမရှိသော ဘုရားရှင်၏ ဓါတ်တော်အလို့ငှာ ဒါယကာ ဖြစ်ပါလော........ ဟု ဆိုလေ၏။

၅။ ပဉ္စုန္နနတ်မင်းလည်း ထိုစကားကို ကြား၍ ကောင်းလှပါပြီ- အကျွန်ုပ်သည်သာလျှင် ထိုဆံတော် အလို့ငှာ ဒါယကာ ပြုလိုပါသည်ဘုရား ဟု ဝန်ခံလတ်သော် ဒါယကာ....ထိုသို့ဖြစ်လျှင် သင်သည် စေတီတည်သင့်ရာ အရပ်ကို ရွေးချယ် စီစစ်လေလော ဟု မိန့်ဆိုလေ၏။

၆။ ထိုခဏ၌ ပဉ္စုန္နနတ်မင်းသည် တန်ခိုးဖြင့် တခုသော တွင်းကို ပြုပြီးလျှင် ထိုတွင်း၌ ဓါတ်တော်တိုက်ဖန်ဆင်း၍ ဓါတ်တော်တိုက်၌ ရတနာ ၁၃ နှစ်ပါးဖြင့်ပြီးသော နေရာကို ခင်း၍ ဆိုခဲ့ပြီးသော နည်းအတိုင်း ရွှေဖြင့်ပြီးသော ၅၈ စ်ကျိပ်သော မဟာသာဝကတို့၏ ရုပ်တုတော် ဘုရားရှင်၏ရုပ်တုတော်တို့ကို မယ်တော်,ခမည်းတော်တို့၏ ရုပ်တုနှင့်တကွ စီမံလေ၏။ ထိုနောက် နေရာအလယ်၌ ရတနာ ၁၃ နှစ်ပါးဖြင့် ပြီးသော ဓါတ်တော် ပန်းတောင်းကို ထားပြီးလျှင် ရောင်ခြည်တော် ခြောက်ရှိန်တောက်ထိန်လျှက်ရှိသော ဆံတော်ဓါတ်ကို နတ်၌ ဖြစ်သော နံ့သာရေဖြင့် ရေသပ္ပါယ်၍ အရှင်ဘုရား အလုံးစုံသော လူအပေါင်း၏ အစီးအပွါးအလို့ငှာ ဤနေရာ၌သာ တည်နေတော်မူပါဘုရား .... ဟု မြွက်ဆိုပြီးလျှင် ရဟန္တာ ခြောက်ပါးတို့၏ အလိုတော်ကျ အတိုင်း ထိုဓာတ်တော်ပန်းကောင်း၌သာလျှင် တည်ထားလေ၏။

၇။ ထိုခဏ၌ အောက်၌ ဆိုပြီးသော နည်းအတိုင်း မြေတုန်လှုပ်ခြင်းစသော အံ့ဩဘွယ်တို့သည် တင်ရှားစွာ ဖြစ်ကုန်၏။

၈။ ထိုအခါ ပဋ္ဌာန္ဒု နတ်မင်းသည် ဆံတော်ဓါတ် မြတ်ကို အာရုံပြုလျက်—

ငါသည် ဤသို့ တန်ခိုးကြီးမား အတုမရှိသော မြတ်စွာဘုရား၏ ဆံတော်ဓါတ် အလို့ငှါ ဒါယကာ ဖြစ်ရပေပြီ။ ငါ၏ ကောင်းမှုအရာသည် ကောင်းလေစွ တကား.... ဟု ဝမ်းမြောက် ဝမ်းသာ မြွက်ဆိုလေ၏။ ဤသို့ ဆိုပြီးလျှင် ထိုဆံတော်ဓါတ်ကို ငါးပါးသော တည်ခြင်းဖြင့် ပြားပြားဝပ် ရှိခိုး၍ မိမိ၏ ကိုယ်၌ ရုံအပ်သော အပေါ်ရုံကို ချွတ်၍ ရခဲလှစွာသော ဖူးမြင်ရခြင်း ဖြစ်လေစွတကား.... ဟု ဆိုလျက် ဆံတော်ဓါတ်ကို ပူဇော်ခြင်းပြုလေ၏။

၉။ အလုံးစုံသော နတ်တို့သည်လည်း မိမိအား လျောက်ပတ်သော ပူဇော်ခြင်းကိုပြုကြကုန်၏။ ထိုနောက် ပဋ္ဌာန္ဒုနတ်မင်းသည် ရတနာအထူးထူးဖြင့်ပြီးသော အုဋ္ဌ တို့ဖြင့် စေတီကို တည်စေ၏။ စေတီယင်ပြင်ကိုလည်း သုတ်သင်စေ၍ ထက်ဝန်းကျင် တံတိုင်းခတ်ပြီးလျှင် မနီး မဝေး၌ ရေကန်တခုဖန်ဆင်း၏။ လေးပါးသော အရပ် တို့၌လည်း မွှေးအိုးတို့ကို မြှုပ်၍ ဆံတော်ဓါတ်ကို ပူဇော် ခြင်းပြုလေ၏။

၁၀။ အလုံးစုံသော ရဟန္တာမြတ်တို့သည်........

(က) ဤစေတီသည် နောင်အခါ အလံတရာမျှ မြင့်လတံ့။

(ခ) တရားမင်း သည်လည်း ဤအရပ်၌သာ ဖြစ်ပေါ်လတံ့ — ဟု
မျာဒိတ်စကား မိန့်ကြားကြကုန်၏။

၁၁။ ထိုစေတီတော်မြတ်ကား ထက်ဝန်းကျင်မှ မွေ့လျော်ဘွယ်သော တံတိုင်းအစီအစဉ် စသည်ဖြင့် စေတီကို စီရင်ခြင်းကြောင့် နောင်အခါ၌ **သောဠာသစေတီတော်မြတ်** ဟု ထင်ရှားအံ့။

ပဋ္ဌုန္နထုပဝင်ပြီး၏။

---

## ၃။ မဏ္ဍိမေခလာထုပဝင်

၁။ ပဋ္ဌုန္နတ်မင်းစေတီတည်ပြီးသောအခါရဟန္တာ အရှင်မြတ် အားလုံးတို့သည် ထိုနေရာမှ ပြန်ဆုတ်၍ သမုဒြာကမ်းအနီး၌ ထက်ဝန်းကျင်မှ သော်ကပင်တို့ဖြင့် ဖုံးလွှမ်းသော အနောက်ဘက်၌လည်း ချောက်ဖြင့် ဝန်းရံအပ်သော နေရာတခုကို မြင်ကြရလျှင် ငါ့ရှင်တို့ ဤနေရာ၌ ဆံတော်ဓာတ် ဒါယကာအလို့ငှါ အဘယ်သို့လျှင် ရှာဖွေသင့်မည်နည်း ဟု တိုင်ပင်ကြကုန်၏။

၂။ ထိုအခါ အရှင်ပဒုမုတ္တရသည် ထိုရဟန္တာ ငါးပါးတို့အား အရှင်ဘုရားတို့ အကျွန်ုပ်သည် ဆံတော်ဓါတ် ဒါယကာကို ရှာဖွေပါမည် ဟု လျှောက်ထားပြီးလျှင် ဘုရားရှင်၏ ဂုဏ်ကျေးဇူးနှင့် စပ်သောစကားဖြင့် မိဋ္ဌါန်ခြင်းအမှုကို ပြုလေ၏။

တလောကလုံး၏ ညွန့်ဖူးတန်း အမြတ်ဆုံး ဖြစ်သော မြတ်စွာဘုရား- ရှင်တော်မြတ်ဘုရားသည် လူအပေါင်းကို ဝဲသြဇာ, ရေအယဉ်မှ ကယ်တင်ခြင်းအကျိုးငှာ ဤအရပ်၌ တည်နိုင်သည်ဖြစ်ပါအံ့ ရှင်တော်မြတ်၏ တန်ခိုးတော်အားဖြင့် အကျွန်ုပ်အား တောင့်တတိုင်းမသွေ ပြည့်စုံပါစေသတည်း သက်တော်ထင်ရှား ဘုရားဦးခေါင်းကိန်းအောင်း တည်တတ်ဆံတော်မြတ်ဘုရား........အကျွန်ုပ်သည် ယခုအခါ စေတီဒါယကာကို ရရပါလို၏ဘုရား။

၃။ ဤသို့ ဆုတောင်းပဌနာပြုစဉ် သမုဒ္ဒါစောင့်မဏိမေခလာ နတ်သွီးသည် ဘုရားရှင်၏ တန်ခိုးတော်အားဖြင့် ထိုအရပ်၌ ကိုယ်ထင်ပြသကဲ့သို့ အလုံးစုံသော တန်ဆာတို့ဖြင့် ဆင်မြန်းလျက် များစွာသော အခြံအရံနှင့်တကွ သမုဒ္ဒါမှ ထင်ရှားစွာ ပေါ်ပေါက်လာလေ၏။

၄။ ထိုအခါ မထေရ်မြတ်တို့သည် ဥပါသိကာဒါယိကာမ ဆံတော်ဓါတ် အလို့ငှာ စေတီတည်ရန်အတွက် သင့်အားပျောက်ပတ်လှပေ၏၊ စွမ်းနိုင်လျှင် အတုမရှိသော ဓါတ်တော်၏ ဒါယိကာမ ဖြစ်ပါလော ဟု မိန့်ဆိုကြကုန်၏။

၅။ ထိုအခါ မဏိမေခလာနတ်သွီးသည် ငါကားမာတုဂါမ ဖြစ်ချေ၏။ စေတီတည်ရာ၌ အဘယ်သို့ အစွန်းစိခြင်းကို ပြုရအံ့နည်း ဟု ကြံ၍ အရှင်သူမြတ်တို့ဘုရား- အကျွန်ုပ်သည် အဘယ်သို့ ပြုရပါအံ့နည်း ဘုရား....ဟု လျှောက်ကြားလေ၏။

၆။ အိုဒါယိကာမ ဤပဗ္ဗတ္တရာဇ်သားတို့အား အခ
ပေးနိုင်လျှင် ထိုသူတို့သည် လျင်မြန်စွာ စေတီတည်ကုန်
လတံ့ဟု မိန့်ဆိုလေ၏။

၇။ နတ်သိကြားသည် ကောင်းလှပါပြီဘုရား ဟု ဝန်ခံ
ပြီးလျှင် မထင်ရှားသောအသွင်ဖြင့် သွား၍ ထိုပဗ္ဗတ္တရာဇ်
သားတို့အား အခပေးသဖြင့် စေတီကို တည်စေလေ၏။

၈။ ထိုသူတို့သည် ထိုနေရာ၌ ဓါတ်တော်တိုက်ကို
အတောင်ရှစ်ဆယ်နက်အောင် ပြုကြကုန်၏။

၉။ ထိုအခါ နတ်သိကြားသည် တန်ခိုးဖြင့် ဆောင်ယူခဲ့
သော ရတနာကို ထက်ဝန်းကျင်ရပုံ၍ ဝေပုလ္လတောင်မှ
စကြာဝတေးမင်း၏ ပဒ္မမြားရတနာထမျှ မိုးရောင်ကဲ့
သို့ တောက်ပသော ပဒ္မမြားရတနာတခဲနက်ကို ဓါတ်
တော်တိုက်၏ အလယ်၌ ထားလေ၏။ ထိုတခဲနက်
ပဒ္မမြားရတနာအထက်၌ဓါတ်တော်ကြုတ်ကို ဖန်ဆင်း
၍ ထားလေ၏။

၁၀။ ဓါတ်တော်ကြုတ် ထားသည်နှင့် တပြိုင်နက်
မဟာပထဝီ တုန်လှုပ်၏။ အခါမဲ့ လျှပ်စစ်နွယ်တို့သည်
ပြိုးပြိုးပြက်ပြက် အရောင်ထွက်ကုန်၏။ မွှေးလျော်ဘွယ်
မိုးယင်း ရွာသွန်း၏၊ နတ်ဗြဟ္မာအားလုံးတို့သည် ကောင်း
ချီးနှုတ်မေ့သာရခေါ်ကုန်၏။

၁၁။ ထိုနောက် ဆံတော်ဓါတ်အား ကြီးကျယ်စွာ
ပူဇော်သက္ကာရပြု၍ စေတီတည်စေ၏။ စေတီ တည်ပြီး
သောအခါ မဟာမေခလာနတ်သမီးသည် အဓိဋ္ဌာန်ပြုလျက်
ဤသို့သော စကားကို မြွက်ဆိုလေ၏။

ငါးပါးမာရ်ကိုအောင် ဘုန်းခေါင်ထိပ်တင် ရှင်ပင် ဘုရား........ ရှင်တော် ဘုရားသည် နှစ်ပေါင်း များ မြောင် ငါးထောင်ပတ်လုံး ဤဓာတ်တော်တိုက်၌ တည်နေတော်မူပါဘုရား၊ ရှင်တော်ဘုရား၏ တန်ခိုးတော်ကြောင့် ဤသတ္တဝါ တို့သည် သေခြင်း ကင်းပ နိဗ္ဗာနကို သိရှိကြပါစေကုန်သတည်း ဟု မြွက်ဆိုလေ၏။

၁၂။ ဤသို့လျှင် မဟာမေခလာနတ်သမီးသည် ကြည်ညိုစွာ မြွက်ဆို၍ ဆံတော်ကို ထည့်သွင်းကာ စေတီထက်ဝန်းကျင် ဖူးမြင်နိုင်အောင် တည်ထား စေလေပြီ။ တည်ထားပြီးသောအခါ ရဟန္တာအရှင်မြတ်တို့၏ ခြေတော်တို့ကို ရှိခိုး၍ နှစ်သက်ရွှင်လန်းစွာ ပြန်သွားပြီးလျှင် မိမိဗိမာန်သို့ ဝင်လေ၏။

မဟာမေခလာထူပဝင်ပြီး၏။

---

## ၄။ အဋ္ဌိကနာဝိကထူပဝင်

၁။ ထိုမဟာမေခလာစေတီမှ မြောက်ဘက် အရပ်သို့ ထိုအရှင်မြတ်အားလုံးတို့ ကြွလာသောအခါ သစ်ခက်ရွက်ညွန့်တို့ဖြင့် တန်ဆာဆင်အပ်သော မြေသော အရိပ်ရှိသော ပညောင်ပင်တချို့ နေသော ရုက္ခစိုးနတ်သည် ထိုအရှင်မြတ်တို့ကို မြင်ရသဖြင့် အရှင်ဘုရားတို့ အဘယ်အကျိုးငှါ ဤအရပ်သို့ ကြွလာကြပါသနည်း ဟု မေးလျှောက် လေ၏။ ဒါယကာ နတ်မင်း- ဤနေရာ သည်

လျှောက်ပတ်၏။ ဘုရားရှင်၏ ဆံတော်ခေတ်တဆူကို တည်ထားခြင်းငှါ ငါတို့ ကြွလာကြကုန်၏ ဟု ဆိုလတ်သော် ကောင်းလှပါပြီအရှင်ဘုရားတို့၊ အကျွန်ုပ်သည်လည်း အရှင်မြတ်တို့နှင့် အတူတကွ ဝမ်းမြောက်သမှုပြုလုပ်ပါမည်ဟု လျှောက်ကြားလေ၏။

၂။ ထိုအခါ ရှင်ဂုဏာသာဂရသည် ခေတ်တော် ဒါယကာ ရှာဖွေရေး၌ ငါ၏တာဝန်ဖြစ်သည် ဟု ခေတ်တော် ဒါယကာအလို့ငှါ လက်အုပ်မိုးလျက်—

ဘုရားရှင်၏ ဦးထိပ်၌ဖြစ်သော ဆံတော်ခေတ်သည် သဗ္ဗဝါ အားလုံး၏ အစိုးအပွါးအလို့ငှါ ဤနေရာ၌ အမြဲတည်နိုင်မည်ဖြစ်ပါအံ့၊ ဒါယကာ လွယ်ကူစွာ ရပါစေသတည်း...... ဟု

မိဋ္ဌာန်သောအားဖြင့် မြွက်ဆို၍ ဆံတော်ခေတ်ကို ရှိခိုးလျက်သာ ထိုင်နေတော်မူလေ၏။

၃။ ထိုခဏ၌ ဘုရားရှင် ဆံတော်ခေတ်၏ တန်ခိုးတော်ကြောင့်ငင်း၊ မထေ ်မြတ်၏ မိဋ္ဌာန်ခြင်း အစွမ်းကြောင့်ငင်း၊ဘုရားရှင်စသည်တို့၏တန်းခိုးတော်ကြောင့်ငင်း၊သာသနာတော်အကြောင်း ကောင်းကောင်း သိပြီးသော ကုန်သည်ဘို့ဖြင့် ပြည့်သော လှေတစင်းသည် လေညှင်းဆောင်သဖြင့် ထိုအရပ်ဒေသသို့ အစဉ်အတိုင်း ရောက်လာလေ၏။

၄။ ကုန်သည်တို့သည် ရဟန်းသံဃာကို မြင်ရလျှင် ''ငါတို့သည် သမုဒ္ဒရာခရီးသွားတို့ ဖြစ်ကုန်၏။ ခြောက်

ပါးသော အရှင်ကောင်းတို့ထံ ချဉ်းကပ်၍ သံဃာတော်များအား ဖူးမြော်ရခြင်းဟူသည် ရနိုင်ခဲလှ၏''......ဟု ကြံစည်၍ လှေသူကြီးကို ပြောကြားကြကုန်၏။

၅။ လှေသူကြီးသည်လည်း ထိုစကားကို ကြား၍ သံဃာတော်အပေါင်းအား ကြည်ညိုလှသဖြင့် ကုန်သည်တို့နှင့် အတူ လှေကြီးမှ ဆင်းပြီးလျှင် လှေငယ်ပေါ်သို့ တက်၍ ထိုအရှင်မြတ် ခြောက်ပါးတို့ထံ ချဉ်းကပ်ရှိခိုးပြီးလျှင် ''အရှင်မြတ်တို့အား ဤနေရာအရပ်၌ အဘယ်သို့သော ပြုဘွယ်ကိစ္စရှိပါသနည်း''ဟု မေးလျှောက်လေ၏။

၆။ ဒါယကာ ငါတို့သည် မြင့်မြတ်လှသော ဘုရားရှင်၏ ဆံတော်ဓါတ်တဆူကို လူအပေါင်း၏ အစီးအပွား အလို့ငှာ စေတီတည်ထားလို၍ ဤအရပ်သို့ ရောက်လာကြကုန်၏ ဟု မိန့်ကြားတော်မူကုန်၏။

၇။ လှေသူကြီးသည် ထိုစကားကို ကြားရလျှင် ဝမ်းမြောက်လှသဖြင့် ကုန်သည်တို့ကိုခေါ်၍ အချင်းတို့ ငါတို့သည် အရတော်လေစွတကား။ ဤသို့ ကြီးမားသော တန်ခိုးရှိသော သဗ္ဗညုဝါအပေါင်း၏ အစီးအပွါးကို ဆောင်တတ်သော ဘုရားရှင်၏ ဆံတော်ဓါတ်ကို ငါတို့ ဖူးမြင်ကြရခြင်းသည် ကောင်းစွာ လာဘ်တိုက်ခြင်းပင် ဖြစ်သည်ဟု ဆိုပြီးလျှင် အချင်းတို့ မဟာသမုဒ္ဒရာ၌ ကြာမြင့်စွာ ခရီးသွားကြသော ငါတို့သည် ဤသို့သော လာဘ်ကို မရကြစဘူး၊ ထို့ကြောင့် သင်တို့သည် အကျွန်ုပ်၏ အဘော် ဖြစ်ကြပါကုန်၊ အကျွန်ုပ်သည် စေတီတည်လိုပါသည်ဟု ဆိုလေ၏။

၈။ ထိုကုန်သည်တို့သည်လည်း ကောင်းပါပြီဟု ဝန်ခံကြကုန်၏။ ရဟန္တာ့ခိုးနတ်သည်လည်း လူ့အသွင်ပြု၍ အကျွန်ုပ်သည်လည်း သင်တို့၏ အဘော်ဖြစ်ပါမည် ဟု ဆို၏။

၉။ ထိုသူအားလုံးတို့သည် မထေရ်မြတ်တို့ထံ ချဉ်း ကပ်၍ သင့်လျော်သလောက် အလှူဝတ္ထုကို လှူဒါန်းပြီး လျှင် မထေရ်တို့ကို ရှိခိုးလျက် နေထိုင်ကြကုန်၏။

၁၀။ လှေသူကြီးသည် အရှင်ဘုရားတို့ အကျွန်ုပ် သည်သာလျှင် ဆံတော်ဓါတ်အတွက် အဆောက်အဦ ကောင်းမွန်စွာ ပြုလုပ်ရာ၌ ကြောင့်ကြ စိုက်လိုပါသည် ဘုရား ဟု တောင်းပန်စကား လျှောက်ကြား၏။

၁၁။ မထေရ်မြတ်တို့လည်း ကောင်းပြီ ဒါယကာ ပြုပေတော့ ဟု ခွင့်ပြုစကား မိန့်ကြားကုန်၏။

၁၂။ လှေသူကြီးသည် ယောက်ျားတို့ကို စေခိုင်း၍ ဥစ္စာများစွာ အကုန်ခံပြီးလျှင် ဓါတ်တော်တိုက်ကို ပြုလုပ် ၍ ဓါတ်တော်တိုက်၌ ရတနာ့ချနစ်ပါးကို ထည့်၍ တိုက် ခန်းအလယ်၌ ဘုရားရှင်အား ထိုက်သောနေရာကို ခင်း ပြီးလျှင် အရှင်ဂဝံပတိ မထေရ်မြတ်၏ လက်တော်မှ ဆံတော်ဓါတ်ကို ယူ၍ ထည့်ထားလေ၏။

၁၃။ ထားလျှင်ထားခြင်း အလုံးစုံသော အံ့ဩဘွယ် တို့သည် ထင်ရှားစွာ ဖြစ်ပေါ်ကုန်၏။

၁၄။ ထိုအခါ လှေသူကြီးသည် အလွန်တရာ ဝမ်း မြောက်လှသဖြင့် ဒိုအချင်းတို့ တလောကလုံး ၏ ဆရာသမား အတုမရှိသော မြတ်စွာဘုရား

၏ ဆံတော်ခါတ်အတွက် ဒါယကာ ငါဖြစ်
ချေ၏။ အရတော်လေစွတကား ဟု
နှုတ်မြွက်သံချို ရွတ်ဆိုလေ၏။

၁၅။ ဤသို့ဆို၍ ငါးပါးသော တည်ခြင်းဖြင့် စေတီကို ရှိခိုး၍ အထူးထူးသော တံခွန်ကုက္ကားကို စိုက်ထူ ပူဇော်ပြီးလျှင် စေတီကို လကျာရစ်၍ ရဟန္တာအရှင်မြတ်တို့၏ ခြေတော်တို့ကို ရှိခိုး၍ ကုန်သည်တို့နှင့် အတူ လှေစီးကား မိမိမြို့ရွာသို့ထွက်သွားလေ၏။

၁၆။ ရက္ခစိုးနတ်သည်ကား စေတီကို နှစ်သက်မြတ်နိုးလှသဖြင့် ယနေ့တိုင်အောင် အသက်ရှည်လျက် ထိုစေတီကို စောင့်ရှောက်ကာ နေလေ၏။

အဂ္ဂိကနာဂဝိကထုပဝင်ပြီး၏။

---

## ၅။ ဝရုဏ နာဂရာဇ ထုပဝင်

၁။ ထိုခရီးသွားကုန်သည် လှေသူကြီးတို့၏ စေတီတော်မှ အရှေ့ဘက် အရပ်အဘို့ ဂင်္ဂါမြစ်၏ ကမ်းနားဌ မွေ့လျော် ပျော်ဘွယ် ကောင်းသော အရပ်တခု ရှိ၏။ ရဟန္တာ အရှင်မြတ်တို့သည် ထိုအရပ်သို့ ရောက်ကြလျှင် ငါ့ရှင်တို့ ဤနေရာသည် အရိပ်,ရေနှင့် ပြည့်စုံ၏။ ဤနေရာ၌ ဆံတော်ခါတ်တဆူကို တည်ထားခြင်းငှါ သင့်လျော်၏ ဟု မိန့်ဆိုကြကုန်၏။

၂။ ထိုအပါ ဉာဏပဏ္ဍိတမထေရ်သည် ဒါယကာ ရှာဖွေရေး၌ ငါ၏ တာဝန် ဟု ဆို၍ ဒူးဝန်းတဘက် မြေ၌ ထောက်လျက် လက်အုပ်ကို ဦးခေါင်း၌ ထားပြီးလျှင်

ဘုရားရှင်သည် တလောကလုံး၏ နိဗ္ဗာန်ခရီးဆောင်ဖြစ်၏။ အတုမရှိသော ယောကျ်ားမြတ်ဖြစ်၏၊ ထိုဘုရားရှင်၏ ဆံတော်ဓာတ် စင်စစ် အကယ်၍ ဖြစ်ခဲ့ငြားအံ့၊ အရှင်မြတ်အလို့ငှါ ဒါယကာ ရပါလို၏ ဟု မြွက်ဆိုလေ၏။

၃။ ဤသို့ အရှိအသေပြု၍ မြွက်ဆိုစဉ် သာလျှင် တဦးသော ဝရုဏမည်သော နဂါးပြည်မှ အခြံအရံနှင့် တကွ ထွက်လာ၍ မထေရ်မြတ်၏ မျက်မှောက်၌ ထင်ရှားစွာ ရောက်လာလေ၏။

၄။ နဂါးမင်းသည် မထေရ်တို့ကို ရှိခိုးပြီးလျှင် ကြွလာခြင်းအကြောင်းကို မေးလျှောက်သဖြင့် ဘုရားရှင်၏ ဆံတော်ဓာတ်ကို တည်ထားခြင်းငှါသာလျှင် ဤအရပ်သို့ ရောက်လာပေသည် ဒါယကာ ဟု မိန့်ဆို လတ်သော် အရှင်ဘုရားတို့ ထိုသို့ဖြစ်လျှင် ဆံတော်ဓာတ် စေတီ၌ အကျွန်ုပ်၏ တာဝန်ကို ပြုတော်မူကြပါဘုရား ဟု တောင်းပန်သဖြင့် အခွင့်ရသောကြောင့် မိမိ ပရိသတ်ကို ခေါ်၍ ဝမ်းမြောက်ဝမ်းသာ ဓာတ်တော်တိုက်အလို့ငှါ မြေကို သုတ်သင်စေ၍ တွင်းကို တူးစေလေ၏။ ဓာတ်တော်တိုက်ကို နတ်ဗိမာန်နှင့်တူအောင် ပြုစေပြီးလျှင် အလယ်၌ ရတနာဖြင့် ပြီးသော ပလ္လင်တခု ဖန်ဆင်း၍ ထီးဖြူမိုးစေလျက် ဓာတ်တော် ပန်းတောင်းကို ဦးခေါင်းဖြင့် ရွက်၍ အဘိုးတန် ပဒ္ဒမြားကြုတ်တခု ပြုလုပ်ပြီးလျှင် အလွန်ရှိသေသော အမှုပြုသဖြင့် မထေရ်မြတ်တို့၏ အလိုအားလျော်စွာ တည်ထားလေသည်။

၅။　ထိုခဏ၌ သာလျှင် အောက်၌ ဆိုခဲ့ ပြီးသော နည်းအတိုင်း တန်ခိုးတော်ပြခြင်း အမျိုးမျိုးတို့သည် ထင်ရှားစွာ ဖြစ်ပေါ်ကုန်၏။

၆။　နဂါးမင်း သည်လည်း ဝမ်းမြောက် လှသဖြင့် မိမိအသုံးအဆောင် ဖြစ်သော စကြာဝတေးမင်း၏ ပတ္တမြားနှင့် တူသော များစွာ အသိုး ထိုက်တန်သော လိုရာ ခပ်သိမ်း ပေးစွမ်း နိုင်သော ပတ္တမြား ရတနာ တခုကို လည်း မိမိ၏လည်မှ ဖြုတ်၍ ဘုရားရှင်၏ ဆံတော် ဓာတ်အား ပူဇော်ခြင်း အမှုကို ပြုလေ၏။

၇။　အလုံးစုံသော နဂါး ပရိသတ်တို့သည် က,ကြလျက် သီဆိုကြလျက် တူရိယာ အားလုံးကို တီးမှုတ်ကြလျက် ကြွေးကြော်ကြလေကုန်၏။ အလုံးစုံသော နတ်တို့သည်လည်း အထူးထူး အပြားပြား ကောင်းချီး ပေးကုန်၏။

၈။　ထိုခဏ၌ နဂါးမင်းသည် ဆံတော်ဓာတ် စေတီကို အလွန်တရာ ရှုချင်ဖွယ် ကောင်းအောင် တည်ထားစေလေ၏။

၉။　စေတီ တည်ပြီးသော အခါ နဂါး မင်း သည် လက်ျာရစ်လှည့်၍ ညွတ်သောဦးခေါင်းဖြင့် ရှိခိုးလျက်........

ကမ္ဘာကုဋေတို့ဖြင့် မသေနိုင်အောင် အသက်ရှည်သော်လည်း ရခဲလှစွာသော ဘုရားရှင်ကို ငါဖူးတွေ့ရလေပြီ၊ ကုသိုလ် လိုလားသော ငါသည် ထိုဘုရားရှင်၏· ဆံတော်ဓာတ် ဒါယကာလည်း ဖြစ်ရပေ၏ ဟု မြွက်ဆိုလေ၏။

၁၀။ တန်ခိုးကြီးသော ဝရုဏ နဂါးမင်းသည် ဤသို့ မြွက်ဆို၍ ဝမ်းမြောက် ဝမ်းသာ နဂါးတို့ ခြံရံကာ ပြန် သွားလေ၏။

ဝရုဏ နာဂရာဇ ထူပဝင်ပြီး၏။

## ၆။ သတ္တ နာဝိက ထူပဝင်

၁။ ထိုနဂါးမင်း စေတီမှ မြောက်ဘက် အရပ်သို့ ရဟန္တာအရှင်မြတ်တို့ ကြွသွားကြသော အခါ မနီးလွန်း မဝေးလွန်း ကုသိုလ်လိုလားသောသူတို့၏ အသွားအလာ နှင့် ပြည့်စုံသော နေရာတခုကို မြင်ရလျှင် ငါ့ရှင်တို့ ဤနေ ရာသည် လျောက်ပတ်၏။ ဤနေရာ၌ ကြွင်းကျန်သော ဘုရားရှင် ဆံတော် ဓါတ်တဆူကို တည်ထားသင့်၏ ဟု ဆိုကြကုန်၏။

၂။ ထိုအခါ ရှင်ရေဝတ သန္တာန်၌ အကြံ ပေါ် ပေါက်လာ၏။ ရဟန္တာ အရှင်မြတ် ငါးပါး တို့မှာ ဒါယ ကာရကြသဖြင့် နှလုံးအလို အပြီးသို့ ရောက်ပြီ၊ ထိုအတူ ငါးသည်လည်း ဤနေရာ၌ ဒါယကာ တဦးကိုရချင်၏။ငါ သည် ဆံတော် ဓါတ်အလို့ငှာ စေတီဒါယကာ အတွက် တောင့်တခြင်း အမှု ပြုရပါမူ ကောင်းလေစွဟု- အကြံ ပေါ်ပေါက်လာ၏။

၃။ ထိုအခါ အရှင်ရေဝတသည် ဘုရားရှင်အပေါ် ၌ အလွန်အားထိုသို့ ရောက်သောရှိသေသာမှုကို ပြည့်စုံ စေပြီးလျှင်- ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရား

ရှင်တော်မြတ်ဘုရားသည် လေးသင်္ချေနှင့် ကမ္ဘာတသိန်း ပတ်လုံး ပါရမီတို့ကို ဖြည့်ကျင့်တော်မူပြီးလျှင် စွန့်ခြင်းကြီး ငါးပါးကို စွန့်၍ နတ်လူတို့ ပြုနိုင်ခဲသော အမှုကို ပြုတော်မူသဖြင့် ဘုရားရှင်အဖြစ်သို့ ရောက်တော်မူသည် စင်စစ်ဖြစ်ပါလျှင် ယခုအခါ ရှင်တော်မြတ်ဘုရား၏ တန်ခိုးတော်အားဖြင့် စေတီဒါယကာ ဤနေရာသို့ရောက်လာပါစေသတည်းဟု အဓိဋ္ဌာန်ပြုကာ ဤသို့သောစကားကို မြွက်ဆိုလေ၏။

နိဗ္ဗာန် ခရီး အပြီးဆောင်တတ် ဘုရားမြတ်- ရှင်တော်မြတ်သည် လူ အပေါင်း၏-အစီး အပွားအလို့ငှာ ဤနေရာ၌ ခွင့်ပြုနိုင်သည် စင်စစ်ဖြစ်တော်မူပါလျှင် ရှင်တော်မြတ်၏ တန်ခိုးတော်ကြောင့် ဆံတော်ဓါတ် စေတီအလို့ငှာ ဒါယကာကို ရလိုပါသည်ဘုရား....ဟု မြွက်ဆိုလေ၏။

၄။ ဤသို့ တောင့်တစဉ်သာလျှင် သဋ္ဌါတရားနှင့် ပြည့်စုံကုန်သော လှေခုနစ်စင်းအတိုင်း အရှည်ရှိကုန်သော ဒမိဠ-လူမျိုး [ကျေးလူမျိုး] ကုန်သည် တို့သည် ဆံတော်ဓါတ်တန်ခိုးဖြင့် ဆောင်ကျဉ်းအပ်ကုန် သကဲ့သို့ တပါးသော အရပ်သို့ သွားခြင်းငှာ မစွမ်းနိုင်ကြသဖြင့် ထိုနေရာအရပ်သို့သာ အစဉ်အတိုင်း ရောက်လာကြလေကုန်၏။

၅။ ထိုကုန်သည်တို့သည်လည်း အဝေးမှ ရဟန်းသင်္ဃာတော်တို့ကိုမြင်ရလျှင် လှူဒါန်းလိုကြသဖြင့် အကြီးဆုံးသော လှေသူကြီးကို ပြောကြားကြလေကုန်၏။

၆။ ထိုစကားကို ကြား၍ လှေသူကြီး သည်လည်း ထိုသို့ဖြစ်လျှင် ငါသည်လည်းသွားပေအံ့ ဟု ဆို၍ ကြွင်းသောလှေသူကြီးတို့နှင့်တကွ မထေရ်မြတ်တို့ထံ သွားပြီးလျှင် လှူဒါန်း ဆည်းကပ်၍ အရှင်မြတ်ဘုရားတို့ ဤအရပ် သို့ အ ဘယ် အကျိုးငှာ ကြွလာပါသနည်း ဟု မေးလျှောက်ကြလေကုန်၏။

၇။ ဒါယကာတို့၊ အားဆယ်ပါးကို ဆောင်တော်မူသော ယောကျ်ားမြတ် ဖြစ်တော်မူသော ဘုရားရှင်၏ ဆံတော်ဓါတ်ကို သဗ္ဗဝါတို့ အစီးအပွားအလို့ငှာ တည်ထားလိုသဖြင့် ကြွရောက် လာကြကုန်၏ဟု မိန့်ဆိုကြကုန်၏။

၈။ ထိုသို့မိန့်ဆိုလတ်သော် လှေသူကြီးခုနစ်ဦးနှင့် ကျေးလူမျိုးကုန်သည်တို့သန္တာန်၌အကြံဖြစ်ပေါ်လာသည်မှာ....ငါတို့သည် ရှေးအခါဘုရားရှင်အားဖူးမြှော်ရသောအခါ၌ တောက်ပြောင် ထိန်ထိန် ခြောက်ရောင်ရှိန်လျှပ် ကိုယ်တော်မြတ်ကို ဖူးမြှော်ကြရကုန်ပြီ၊ယခုအခါ ဘုရားရှင်၏ ဆံတော်ဓာတ် အာနုဘော်ကား အဘယ်သို့သော သဘောရှိမည်နည်းဟု ကြံစည်ကြကုန်စဉ် ယုံမှားသက်ာ ဖြစ်ပေါ် လာလေ၏။

၉။ ထိုဒါယကာ အားလုံးတို့၏ ယုံမှားသက်ာကို ပယ်ဖျောက်ခြင်း အကျိုးငှာ ဆံတော်ဓါတ်သည် တန်ခိုးတော်ပြလေ၏။

၁၀။ ထို့ကြောင့် ဤသို့သောစကားကို ဆိုအပ်ပေ၏။ ။ဆံတော်ဓါတ်မှထွက်သော ရောင်ခြည့်သည်

ကဏ္ဍာ၏ သရက်ပင်ရင်း၌ ရောက်သကဲ့သို့ ဖြစ်၍
လူအပေါင်း၏မျက်စိ၌နှစ်ချိုက်မြတ်နိုးဘွယ်ရာရေ
မိ ႏ နှစ်မျိုးတန်ခိုးအစုံကို ပေါင်းဆုံကာ ပြလေ၏။

၁၁။ လှေသူကြီး ကုန်သည် အားလုံးတို့သည် ထို တန်ခိုး တော်ကိုမြင်ရလျှင် ဝမ်းမြောက်ဝမ်းသာ သဒ္ဓါတရားဖြစ်ပွားကြသဖြင့် အသီးသီးမိမိအား ထိုက်လျောက်စွာ ပူဇော်သက္ကာရ ပြုကြကုန်၏။ ခတ်တော်အား ပူဇော် သက္ကာရ ပြုပြီးလျှင် ရဟန္တာ မထေရ်မြတ်တို့ထံ သွား၍ စေတီတော်တည်ရန် အခွင့်တောင်းကြ ကုန်၏။ ထိုလှေသူကြီးကုန်သည် အားလုံးတို့သည် အခွင့်ရကြသဖြင့်ဆိုပြီးသော နည်းအတိုင်း ဓာတ်တော် တိုက်ကို ပြုစေ၍ ထို တိုက်၌အလုံးစုံသော ရတနာကို စုပုံပြီးလျှင် ဘုရားရှင်အားထိုက်သော နေရာကို ခင်းစေ၍ ဆီမီး ညှိထွန်းစေ၍ ဘုရားဆင်းတုတော်၊ အသီတိသာဝကတို့၏ ရုပ်တုတော်တို့ကို ထား၍ အလယ်၌ ရွှေပန်းတောင်းကို ထားပြီးလျှင် အရှင်ရေဝတ မထေရ်၏ လက်တော်မှ အတုမရှိသော ဆံတော်ဓာတ်ကို ခံယူကြ၍ နံ့သာရေဖြင့် ရေသပ္ပါယ်ကြပြီးလျှင် ရွှေငွေတို့ဖြင့် ပြီးသော ပန်းတို့ဖြင့်၎င်း၊ ဆီမီးတို့ဖြင့်၎င်း၊ ဆံတော်ဓာတ်ကို သည်းခံတော်မူရန် တောင်းပန်ကန်တော့၍ ပန်းတောင်း၌ ထားကြ လေကုန်၏။

၁၂။ ထိုခဏ၌သာလျှင် အောက်၌ ဆိုပြီးသော နည်းအတိုင်း မြေလှုပ်ခြင်းစသော အံ့ဩဘွယ်တို့သည် ထင်စွာ ဖြစ်ကုန်၏။ တသောင်းသော စကြာဝဠာတိုက်မှ နတ်တို့သည်လည်း ကောင်းချီးပေးကြကုန်၏။

၁၃။ ထိုလှေသူကြီးတို့သည် စေတီကို တည်၍ ပြီးစီးသောအခါ တံခွန်,ကုက္ကားတို့ကို အထူးထူး အပြားပြား စိုက်ထူစေ၍ စေတီတော်မြတ်ကို ရှိခိုး၍ အရှင်မြတ်ဘုရား အကျွန်ုပ်တို့သည် ကျေးလူမျိုး ဥပါသကာတို့ ဖြစ်ကြပါသည်။ ကောင်းသော အတွေ့ရှိသော ဆံတော်ဓာတ်ကို ယုံကြည်စွာသဒ္ဓါတရားရှိ၍ ဤသို့သောပူဇော်သက္ကာရကို ပြုကြပါသည် ဘုရား ဟု လျှောက်ဆိုကြကုန်၏။

၁၄။ ထိုနောက်မှ ထိုစေတီကို သဒ္ဓါတရား ယုံကြည်သောအားဖြင့် တည်ထားခြင်းကြောင့် သဒ္ဓါစေတီ,ဟူ၍လည်း ခေါ်ဆိုကြကုန်၏။ ဒမိဠလူမျိုးတို့ တည်ထားခြင်းကြောင့် ဒမိဠစေတီဟူ၍လည်း ခေါ်ဆိုကြကုန်၏။

၁၅။ ထိုလှေသူကြီး တို့သည်၎င်း၊ ထိုကုန်သည်တို့သည်၎င်း၊ စေတီတော်မြတ်ကို တောင်းပန်ကန်တော့ကြပြီးလျှင် ရဟန္တာအရှင်မြတ်တို့အား လှူစရာကို လှူဒါန်းကြ၍ အသီးအသီး မိမိ၏ လှေကိုစီး၍ ပြန်သွားကြကုန်၏။

၁၆။ ခြောက်ပါးသော ရဟန္တာ အရှင်မြတ်တို့သည်လည်း ကြံစည် တောင့်တသောအတိုင်း အကြံအစည် ပြည့်စုံကြလေကုန်၏။ ။

သတ္တနာဝိက ထူပဝင်ပြီး၏။

---

၁၇။ ထိုအရပ် ဒေသကိုလည်း ဆံတော် ဓာတ်တို့၏ တည်နေရာ ဌာနဖြစ်သောကြောင့် **ကေသဝတီမြို့** ဟု ခေါ်ဝေါ်သမုတ်အံ့။

ဆ ကေသဓါတုဝင် ပြီး၏။

---

ဓနုဖြူမြို့နယ်

ညောင်ချောင်းဆရာတော်ဘုရားကြီး

သီရိဘဒ္ဒန္တဥာဏဝံသ

ရေးသားတော်မူသော

အဟောအစ္ဆရိယာဝတ

# သောဏ္ဍာယစေတီတော်ကြီး

# ကျောက်စာ

---


မူပိုင်ရှင်-ထုတ်ဝေသူ

(ဆန်းလိုက်) ဦးမောင်ကြီး

သာသနံမုဓောဒုပ်တိုက်

ဆူးလေဘုရားဝင်း၊ ရန်ကုန်မြို့။

# ရာဇာပဋ္ဌာန

လောကဓမ္မတာ၊ လူတို့ရှာဝယ်၊ မင်းသာပြဋ္ဌာန်း၊ မင်းဘုန်းတန်းဖြင့်၊ တိုင်းခန်းပြည့်လုံး၊ သိမ်းကျုံးဗိုလ်ထု၊ ဆိုးကောင်းမှုကို၊ မင်းပြုမင်းပြင်၊ မင်းသာရင်၏၊ လူရှင်သတ္တဝါ၊ များဗိုလ်ပါတို့၊ ကိုးရာအညီ၊ မှန်စွာ ပြီကြောင့်၊ မြီတလင်း လှည်း၊ ပြဋ္ဌာန်းနည်းကို၊ ကွပ်တည်းအာဏာ၊ မင်းမှသာလျှင်၊ ရာဇာပဋ္ဌာန၊ ပြုနိုင်ကြ၏။

ကမ္ဘာ့ တန်ဆောင်၊ အခေါင် စိုးခြင်း၊ နေ့တစင်းသို့၊ မင်းလျှင်မတူပြိုင်၊ မင်းမရှိုင်သော်၊ ယိမ်းယိုင် ပြည်ကြီး၊ ပျက်စီးချောက်ချား၊ ရှားပါး မိုးဃ်းလေ၊ စာရေမွတ်ငတ်၊ ဥပါဒ် လူပေါင်း၊ ထောင်းထောင်းကြေညက်၊ နတ်များမျက်၍၊ လက်နက်ညွှန်လဲ၊ ကျောက်ခဲမိုးမိုးဃ်း၊ ချရွာကြိုးလျက်၊ ကျိုးမဲ့ ကုန်အောင်၊ တိုင်းလုံး လောင်ရှင့်။ ။

( မဃဒေဝ လင်္ကာ )

# နိဒါန်း

"အနာဂတံသေ ဗုဒ္ဓဿ ဘဂဝတော အပ္ပဋိဟတံ ဉာဏံ" ဟူသော်သိမ်မွေ့နက်နဲ၊ ပြန့်ပြန့်ပွန်းသော၊ မိန့်ခွန်းတော်ဖြတ်၊ မှတ်အပ်တော်မူ သည့်နှင့်အညီ၊ လေးလီ သစ္စာ၊ မြိုက်ရသာကို၊ သဗ္ဗဝါတဝေး၊ အေးကြီး အေးအောင်၊ တိုက်ကျွေး တော်မူတတ်သော၊ လောကတ္တယာ ပါရင်၊ ဘုရားရှင် ကိုယ်တော်မြတ်သည် အနာဂါတ် နောင်အခါ ကပ္ပာကမ္ဘာ၊အကုဋေရှေ၊ အသင်္ချေချေ၊ မရေမတွက်နိုင်သော ကာလအလုံးကို၊ သိမ်းကျုံးလွယ်စွာ၊ အကာအကွယ် အဆီးအတားမရှိ၊ မြင်သိ နိုင်သော၊ အနာဂတံသ အပ္ပဋိဟတဉာဏ်၊ အာဝဇ္ဇန်က ဂုဏ်တော်နှင့် ပြည့်စုံ တော်မူသည့်အားလျော်ညီစွာ အနာဂါတ် ကာလ သမယ၌၊ ဖြစ်ကြလတ္တံ့သော အခြင်းအရာတို့ကို၊ မိန့်မှာ ဟော ကြားတော်မူအပ်ကုန်သော၊ ကျောက်စာပါဗျာဒိတ်တော် စကားတို့ကို၊ ဓမ္မဖြာဖြာနယ်၊ ညောင်ချောင်းရွာ ဖွားရာ ဇာတိရှိသော **သီရိဘဒ္ဒန္တ ဥာဏာဝံသ ဘွဲ့ရသော ညောင် ချောင်း ဆရာတော် ဘုရားကြီးသည်** အတိုး သက္ကရာဇ် ၁၂ နှစ်ခန့်က ဟင်္သာတမြို့သို့ ကြွလာစဉ် ရာဇဝတ် ဝန် ကလေးမိဒန်တချက်ကို အမှူးပြု၍၊ပရိသတ်အစုံအလင်ရှေ့ ဝယ်၊ ဟောတော်မူပြီးသည်၏ အဆုံး၌၊ ယခုဟောကြား အပ်ကုန်သော ဗျာဒိတ်တော် စကားတို့ကို နောက်သား နောင်လာ၊ မျိုးလေးဖြာတို့၊ကောင်းစွာ ကြည့်ရှု၊ သတိပြု နိုင်ကြစေရန်၊ကေလာသတောင်ထွန့်ဖျား၌၊ "**အဉ္စရိယာ**

ဝတ" ကျောက်စာတိုင်ကို ခိုင်ခိုင်ခံ့ခံ့ ကြံ့ကြံ့မားမား စိုက်ထား တော်မူမည်ဟု မိန့်ကြား တော်မူသောအခါ တရားနာပရိသတ်တွင် အပါအဝင် ဖြစ်သော ပုသိမ်မြို့ မင်းကတော်ကြီး မမိက အရှင်ဘုရား မိန့်ကြား တော်မူ ချက်အတိုင်း ဆောင်ရွက်တော်မူပါ၊ အရပ်ရပ် ကုန်ကျ သမျှစရိတ်တို့ကို တပည့်တော်မ ကပင် အလှူ ဝင်ပါ မည်ဟု လျှောက်ထား တောင်းပန်လေသည်။ ။ယခုအ ခါ ကောဇာ သက္ကရာဇ် (၁၂၀၀-ခုနှစ်) ၌ ဆရာတော် ဘုရားကြီးသည် သက်တော် ခြောက်ဆယ်တိတိပြည့်ပြီ။ သာသနာတော်လည်း (၂၄၇၀) ရှိပြီ။ သာသနာ တော် ထက်ဝက်ရောက်မည်မှာလည်း အနှစ်သုံးဆယ်တိတိလို သေးသောကြောင့် သင်္ဂါရဝ တရားတို့ကို ထောက်ထား သိမြင်တော်မူသည်နှင့်အညီ ၁၂၀၀-ခုနှစ် ဟံခူးလပြည့် နေ့၌ "အစ္ဆရိယဘာဝတ" ကျောက်စာ တိုင်ကို ကေလာ သ တောင်ထွဋ်ဖျား၌ စိုက်ထားတော်မူရာ ကျောက်စာ ပါ စကားသည် အနည်းငယ် ကျဉ်းသော ကြောင့် တ ကြောင်း၊မရောက်မပေါက်ကြရကုန်သော အမျိုးသားတို့ မမှတ်မသား ကြရကုန် ဖြစ် သော ကြောင့် တကြောင်း၊ အကျယ် ဝိတ္ထာရ ရေးသား၍ ပေးသနားတော် မူပါမည့် အ ကြောင်း နှင့် တောင်း ပန် လျှောက် ထား အပ် သော ကြောင့် များစွာသော အထောက်အထား အကိုးအကား အာရုံဉာဏ သာခကတို့နှင့် တကွ၊ ဝိတ္ထာရ ရေးသား၍ ပေးသနားတော် မူအပ်သည့်အတိုင်း ဖော်ပြ လိုက်ရပ သတည်း။

# သောဏ္ဍာယစေတီတော်ကြီး
# ကျောက်စာ

{ဗုဒ္ဓဝန္ဒနာ}

လောကန္ဒကိတ္တိကိရိတံ ဝတဝဍ္ဎဝန္တံ။
မောဟန္ဓဟန္တုဟာဒယံ ပရပတ္တိပတ္တံ။
လောကာနုကမ္ပကရဏံ ပုရပုညပုညံ။
ဝိရဉ္စိရက္ခရနံ မာဇယာဇိဇိန္ဒံ။

ဤကားကျောက်စာထိပ်၌ပါရှိသော (မုဏ္ဍာဟာရနယ) ပဋိမဏ္ဍိ ဘာဝသန္တတိလကပဇ္ဇဗာန်ဂါထာ။

လောကိန္ဒံ၊ သတ္တလေးပိုဒ် တရားမြိုက်ကြောင့် သုံးတိုက်လောက ဟူသမျှကို စိုးရိမ်တော် မူပေ ထသော။ ကိတ္တိကိရိတံ၊ ဂုဏ်တော်ကိုးတန် ကိတ္တိသံတို့ဖြင့် လူ့ထီမဆန့် ဘဝဂ်နံ့အောင် ပျံ့တော်မူထသော။ ဝတေကန္တံ မချွတ်အမှန် ဧကန်စင်စစ်။ ဝဍ္ဎဝန္တံ၊ ဘဝမလပ် ချားရဟတ်သို့ လှည့်ပတ်ဖန်ဖန် ဝဋ်သုံးတန်ကို ပျိုအံတော်မူပေထသော။ မောဟန္ဓံ၊ သိအပ်လှစွာလေးသစ္စာကို ကွယ်ကာတတ်လှ မှောင်မောဟကို။ ဟန္တုဟာဒယံ၊ ရောင်လျှံငြိုးငြိုး မဂ်ဆိမ်းဖြင့် ဖျောက်ပြီးသောရွှေနှလုံးတော်ရှိတော်မူထသော။ ပရပတ္တိ၊ ကဲလွန် ထူးမြတ် ဖိုလ်အရဟတ်သို့။ ပတ္တံ၊ သဗ္ဗညုဉာဏ် ပဒဌာန်ဖြင့် အမြန်မပေါက်ရောက်တော်မူပေထသော။ လောကံ၊ သတ္တ လောက ဝေနေယျ

ကို။ အနုကမ္ဗကရဏာ ၊သနားသမှု သားရာဟုသို ပြုတော်မူပေထသော။ပုရပုလ္လပုညံ၊ ဆည်းပူးခဲ့လှသည်္ဟာရကြောင့် နိုင်းဆမဆုံး ပျံ့ပြောသော ဘုန်းရှိတော် မူပေထသော။ ဇာဋ္ဌိမန်၊ ပတ္တိမာဒိ ဇာသရိဟု ဇာဒ္ဓိတန်ခိုး အမျိုးမျိုးကို စိုးပိုင်တော်မူပေထသော။ဓိရ ၊ဓိရ တံဆိပ် ဂုဏ်သံဟိတ် ဖြင့် ခပ်နှိပ်ကျော်ကြား မြတ်ဘုရားကို။နိရန္တရ ၊နေ့ညဉ့် မပြတ် ခါမလတ်ဘဲ။ အဟာ ၊ရုပ် နာမ်နှစ်ရပ် ပရမတ်ကို ပညတ်ဖေါ်ထုတ် အကျဉ်နှိပ်သည်။ နမာမိ၊ ရှိသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏အရှင်ဘုရား။

## သောဠာယစေတီတော်ကြီးကျောက်စာ။

ရေနံ့ဖြူမြို့နယ် ညောင်ချောင်းရွာဘုရားဓာတိရှိသော သိရိဘဒ္ဒန္တ (ဉာဏဝံသ) ဟူသော အမည် တော်ဖြင့် ကျော်စော ထင်ရှားသော ညောင်ချောင်း ဆရာတော် ဘုရားသည် ယခု ဝေါဟာရ သက္ကရာဇ်(၁၂၈၈ ခုနှစ်၌) ငါတို့ ရှင်တော်ဘုရား ထားတော် မူခဲ့သော- သာသနာ တော် (၅၀၀၀) အနက် လွန်ခဲ့သော အတိတ် သာသနာ တော်သည် (၂၄၇၀) တိတိပြည့်နေပြီဖြစ်ပါ၍၊ သာသနာ တော်ထက်ဝက်လဲမည်မှာ၊နှစ်ပေါင်း (၃၀) မျှသာ ကြွင်း ကျန်တော့သည် ဖြစ်ခဲ့လေရကား၊ သာသနာတော်ထက် ဝက်ကျော်သော နောင် အနာဂတ်ကာလ၌ အံ့ဘွယ်သရဲ ဖြစ်ပေါ် လတံ့ဆဲဆဲ ဖြစ်ကုန်သော "**အစ္ဆရိယသာဝဘ**" အနာဂတဗျာဒိတ်ခဏ်း ဘုရားရဟန္တာတို့၏ အဟော စာတမ်းတို့ကို အတိတ်ကာလက မဆွကြိုတင်၍ ထင်

ထင်ရှားရှား မှတ်သားဂရု နောက်သား နောက်လာတို့
အထူးသတိပြုကြ စေခြင်း အကျိုးငှါ "သေလကဥ္စရာ"
ကျောက်စာ ကမ္ပည်းဖြင့် သိပ်သည်းစွာ ရေးသား၍
(ကေလာသ) တောင်မြင့်ဖျားဌ် စိုက်ထားတော်မူခဲ့သော

"အဏ္ဍရီသာဝတ-ကျောက်စာတော်"

—:o:—

ဧယျတု။ ။ငါတို့ မြတ်စွာဘုရားသခင်သည် ရာဇ
ဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ ကိန်းအောင်း မွေ့လျော်
စံနေ တော်မူစဉ်အခါ ရှင်အနုရုဒ္ဓ ရှင်သောဘိတ ရှင်ပဒု
မုတ္တရ ရှင်ဂုဏသာဂရ ရှင်ဉာဏပဏ္ဍိတ ရှင်ရေဝတ
ဟူ၍ ၆-ပါးကုန်သော ရဟန္တာကြီး တို့သည် ဘုရားထံ
ချဉ်းကပ်၍ တုပ်ဝပ် လျှောက်ထားကြ ကုန်သည်မှာ-

(မဟာသမုဒ္ဒသ ပန ဘန္တေ အဝိဒူရေ ကေသို ပဗ္ဗတ္တ
ဒေသေ ဗဟုဇနာ ဝသန္တိ တေသံ အနုကမ္ပာယ ပူဇနီယံ
ဒါတုံ ဝဋ္ဋတိ။ ။

ဘန္တေ-အရှင်ဘုရား။ မဟာသမုဒ္ဒသ- မဟာသမုဒ္ဒ
ရာ၏။ အဝိဒူရေ- အလွန်မဝေးလှသော။ ကေသို ပဗ္ဗတ္တ
ဒေသေ- တခုသောပဗ္ဗတ္တရာဇ်အရပ်၌။ ဗဟုဇနာ-များစွာ
ကုန်သောလူတို့သည်။ ဝသန္တိ-နေထိုင်ကြကုန်၏။ တေ
သံ-ထိုလူတို့အား။ အနုကမ္ပာယ- အစဉ်သနားတော်မူသ
ဖြင့်။ ပူဇနီယံ-ပူဇော်ဘွယ်ရာကို။ ဒါတုံ- ပေးသနားတော်
ခြင်းငှာ။ ဝဋ္ဋတိ-သင့်လှပါ၏။ ဣတိ-ဤသို့ လျှောက်ထား
ကြကုန်၏။

ဤသို့ ရဟန္တာ ၆-ပါးတို့သည် ပူဇော်ဖွယ် ကျောက်တောင်းကြွ လေလျှင် မြတ်စွာဘုရား သခင်သည် ထိုရဟန္တာကြီး ၆-ပါးတို့၏ ကျောက်တောင်းသော စကားကို ရွှေနားတော်ကြားတော်မူ၍ ဓနပုဒ်သားတို့၏ အစီးအပွါးကို ပြုတော်မူခြင်း အကျိုးငှါ လက်ျာ လက်တော်ဖြင့် ဦးခေါင်းတော် မြတ်ကို သုံးသပ်တော် မူလေလျှင် ရွှေအဆင်း ရှိကုန်သော ၆-ဆူ ကုန်သော ဆံတော် ဓါတ်တို့သည် လက်တော်၌ ငြိကပ်တော်မူကြကုန်၏။ ထိုဆံတော်ဓာတ်ခြောက်ဆူတို့ကို ရဟန္တာကြီး ၆-ပါးတို့အား တဆူစီပေးသနားတော်မူလေလျှင်၊ ဝမ်းသာအားရ ဦးထိပ်ဖြင့်သာ ရိုသေစွာခံယူကြကုန်၏။ ဤသို့ရဟန္တာကြီး ၆-ပါးတို့အား ဆံတော်ခြောက်ဆူတို့ကို ပေးအပ်တော်မူသောကာလ၌ ရှင်အာနန္ဒာမထေရ်သည် ဘုရားသခင်၏ အပါးတော်၌ ခစားခိုလှုံလျက် ရှိလေရကား မြတ်စွာဘုရားသခင်အား ကျောက်ထားလေသည်မှာ-

ကိံ ဘန္တေ တသ္မိံ ဓနပဒေ သတ္တာနံ အနုဂ္ဂဟာယ ဘဂဝတော ဓါတုယော နိဿာယ ဘဝိဿတိတိ။

ဘန္တေ၊ အရှင်ဘုရား။ တသ္မိံ ဓနပဒေ၊ ထိုဓနပုဒ်၌။ သတ္တာနံ၊ သတ္တဝါတို့အား။ ဘဂဝတော၊ မြတ်စွာဘုရားသခင်၏။ ဓါတုယော၊ ဆံတော်ဓါတ်တို့ကို။ နိဿာယ၊ အမှီပြု၍။ အနုဂ္ဂဟာယ၊ အနုဂ္ဂဟာယသည်။ ဘဝိဿတိ ကိံ၊ ဖြစ်လတံ့ ပါလော။ ဣတိ၊ ဤသို့ကျောက်ထားလေ၏။

ဤသို့ ပျော်ကထားသောကာလ၌ မြတ်စွာဘုရားသခင်သည် ရှင်အာနန္ဒာမထေရ်အား ဗျာဒိတ်တော်ကြားလေသည်မှာ....

(၁) နပဿာမိ အာနန္ဒတသ္မိံ ဇနပဒေ သတ္တာနံ ပရိဟာနိံ ဝုဍ္ဎိမေဝပဿာမိ။

(၂) မမ ပရိနိဗ္ဗာနတောဟိ အာနန္ဒ ပဉ္စဝဿ သဟဿာနိ မမ သာသနံ ပတိဋ္ဌိတံ ဘဝိဿတိ။

(၃) ရာမာဆကောဿခါတုယော ပဉ္စသတာဓိကာနိသဟဿာဝဿာနိဒုက္ခိတာဘဝိဿန္တိ။တတောပရံ မဟာပူဇာ သက္ကာရော ဘဝိဿတိ။ ။

(၄) ကေကံ စေတိယံ မဟာသတ္တုဗန္ဓိယံ ဘဝိဿတိတိ ဗျာကာသိ။ ။

ဟူ၍ [၄] ခွန်းကုန်သော ဖွေ ဗျာဒိတ် တို့ကို မိန့်ဟကျူးရင့်တော်မူလေ၏။

(၁) **အာနန္ဒ၊ချစ်သားအာနန္ဒာ။တသ္မိံ ဇနပဒေ၊ ထိုဇနပုဒ်၌။ သတ္တာနံ၊ သတ္တဝါတို့၏။ ပရိဟာနိံ၊ ဆုတ်ယုတ်ပျက်စီးခြင်းကို။ နပဿာမိ၊ မြင်တော်မမူ။ ဝုဍ္ဎိမေဝ၊ စည်ကားကြီးပွါးခြင်းကိုသာလျှင်။ ပဿာမိ၊မြင်တော်မူ၏။ ။ဤကား ဇနပုဒ်သားတို့၏ စည်ကား ကြီးပွါးခြင်းကိုသာလျှင် မြင်တော်မူကြောင်း (ပဌမ) ဗျာဒိတ်။**

(၂) အာနန္ဒ၊ ချစ်သားအာနန္ဒာ။ မမ၊ ငါဘုရား၏။ ပရိနိဗ္ဗာနတော၊ ပရိနိဗ္ဗာန်ဝင်စံတော်မူပြီးသည်မှ။ ပဋ္ဌာယ၊ စ၍။ ပဉ္စဝဿသဟဿာနိ၊ အနှစ်(၅၀၀၀) တို့ပတ်လုံး။ မမ၊ ငါဘုရား၏။ သာသနံ၊ သာသနာတော်သည်။ ပတိဋ္ဌိတံ၊ တည်နေသည်။ ဘဝိဿတိ၊ ဖြစ်လတံ့။ ဤကားသာသနာတော်အနှစ်(၅၀၀၀)တည်လတံ့ကို မြင်တော်မူကြောင်း (ဒုတိယ) ဗျာဒိတ်။

(၃) အာနန္ဒ၊ ချစ်သားအာနန္ဒာ။ ဆ၊ ၆-ဆူကုန်သော။ ဣမာကေသဓါတုယော၊ ဤဆံတော်ဓါတ်တို့သည်။ ပဉ္စသတာဓိကဒွိသဟဿဝဿာနိ၊ အနှစ် (၂၅၀၀) တို့ပတ်လုံး။ ဒုက္ခိတာ၊ ပူဇော် သက္ကာရကို မခံရဘဲဆင်းရဲကုန်သည်။ ဘဝိဿန္တိ၊ ဖြစ်ကုန်လတံ့။ တတော၊ ထို (၂၅၀၀) တိတိ ထက်ဝက်ပြည့်သည်မှ။ ပရံ၊ နောက်၌။ မဟာပူဇာသက္ကာရော။ ကြီးစွာသော ပူဇော်သက္ကာရသည်။ ဘဝိဿတိ၊ ဖြစ်လတံ့။

ဤကား။ သာသနာတော် ထက်ဝက် ကျော်လျှင် ဘုရားတဖန်ပွင့်လာပြန်သကဲ့သို့ ဆံတော်ဓာတ် ၆ ဆူ တို့သည် ကြီးစွာသော ပူဇော်သက္ကာရကို ခံရလတံ့ကို မြင်တော်မူကြောင်း (တတိယ) ဗျာဒိတ်။

(၄) အာနန္ဒ၊ ချစ်သားအာနန္ဒာ။ ကေကံ၊ တဆူတဆူသော။ စေတိယံ၊ စေတီတော်သည်။ မဟာသတ္တဗန္ဓိယံ။ များစွာသောလူတို့၏ ဖွဲ့စည်းအုပ်သော အဖွဲ့

**အစည်းသည်။ ဘဝိဿတိ၊ ဖြစ်လတံ့။ ဇူတိ၊ ဤသို့ ဗျာကာသိ၊ ဗျာဒိတ်ကြားတော်မူ၏။**

**ဤကား။ စေတီယ ဂေါပက လူကြီးတို့၏ အဖွဲ့ အစည်း အသင်းကြီးကို ဆိုလိုသည်။ ထိုအသင်းကြီးကို မြင်တော်မူကြောင်း (စတုတ္ထ) ဗျာဒိတ်။ ။**

ဤသို့ ရှင်အာနန္ဒာ မထေရ်အား (၄) ခွန်းကုန်သော ဗျာဒိတ်တော်စကားတို့ကို မိန့်ကြားတော်မူပြီး အဆုံး၌ ရှင်အနုရုဒ္ဓါမထေရ်အမှူးရှိကုန်သော ရဟန္တာကြီး-၆ ပါး တို့သည် ခြောက်ဆူကုန်သော ဆံတော်ဓာတ်တို့ကို ပင့် ဆောင်တော်မူပြီးလျှင် ဘုရားသခင်၏အထံတော်မှ ဖဲ ခွါတော်မူလာကြ၍ (မဟာသမုဒ္ဒသပနဘင္ဂေ အဝိဒူရေ ဌေကသ္မိံ ပဗ္ဗတ္ထဒေသေ) ဟု ပဌမ ချောက်တင်ရာ အဆို ပါ စကားအတိုင်း မဟာသမုဒ္ဒရာ၏ အနီး တခုသော ပဗ္ဗတ္တရာဇ်ဒေသသို့ ထက်ကောင်းကင် ခရီးလမ်းဖြင့် ပျံ သန်း ကြွရောက်တော် မူကြကုန်၏။ ပဗ္ဗတ္တရာဇ် အရပ်သို့ ရောက်တော်မူကြလေလျှင်ပင့်ဆောင်တော်မူလာကြကုန် သော ဆံတော်ခြောက်ဆူတို့ကို နတ်ရော လူပါ ၆ ဦး သောဒါယကာတို့သည် တဆူနှင့်တဆူမဝေးမနီး အသီး သီးအားဖြင့် ကိုယ်စီကိုယ်၌ ရွက်ဆောင်ကြ၍-

၁။ ။သိကြားမင်းတည်ထားအပ်သော သက္ကထူပ။
၂။ ။ပဇ္ဇုန်နတ်သား တည်သော ပဇ္ဇုန္နထူပ။
၃။ ။မဏိမေခလာနတ်သမီးတည်သော မဏိမေခလာ ထူပ။

၄။ ။ခရိုးသည် သံဘော်သူကြီး တည်သောအဓွိက နာ၀ိကာထူပ။
၅။ ။ဝရုဏာနဂါးမင်းတည်သော၀ရုဏာနာဂရာဇထူပ။
၆။ ။ဒမိဠ ကျေးကုန်သည်များ တည်သော သဘ္ဘ နာဝိကထူပဟူသော

ခြောက်ဆူကုန်သော စေတီတော်များကို တည်ထားခဲ့ကြ လေကုန်၏။ ထိုစေတီတော်များလည်း ယခုထက်တိုင် ဗျာ ဒိတ် တော် (၄) ခွန်း တို့ တွင် (တတိယ) ဗျာဒိတ် တော်မြွက်အတိုင်း မထင်မလျှား တောကြား ချုံကြားထဲ မှာသာ ဆင်းရဲ ငြိုငြင်စွာ ကိန်းဝပ် စံပျော်တော် မူရှာ ကြလေကုန်၏။ (နှတ်များကွယ်ဖက်ထားဟန်တူသည်။)

ထိုစေတီတော်၏တည်ထားရာဒေသသည် (မဟာသ မုဒ္ဒသပေန ဘန္ဒေ အဝိဒူရေ) ဟူရာ၌အဘယ်မဟာသမုဒ္ဒ ရာဖြစ်ပါသနည်းဟု စဉ်းစားဆင်ခြင်ရန်တရပ်။ (ကေသွိံ ပဗ္ဗတ္တဒေသေ) ဟူရာ၌လည်း အဘယ် ပဗ္ဗတ္တဒေသ ဖြစ် ပါသနည်းဟု စဉ်းစား ဆင်ခြင်ရန်တရပ်။ ဤသို့ နှစ်ရပ် ရှိပေသည်။ ထို (၂) ရပ်တို့တွင် အဘယ် မဟာသမုဒ္ဒရာ ဖြစ်ပါသနည်းဟု စဉ်းစားလတ်သော်....

ရှေးရှေးသော ကာလက ကူးသန်း သွားလာ ကြကုန်သောသဘော်တို့သည်။ ။ရက္ခဆိန္ဓိတွာ မဟာတို နာဝံ ဗန္ဓိတွာ။ ။စသောသမုဒ္ဒ ဝါဏ်္ဍ ခေတ် အဋ္ဌကထာကိုထောက်သဖြင့်ဂှင်း။ ။မန္ဒ

ဝါတေနအာဒိတာ ။လ။ ကောနာဝါ။ ။စသော အဋ္ဌိက နာဝိက ထူပဝင်ပါဠိကို ထောက်သဖြင့် ဂင်း။ သစ်ပျဉ် ချပ်တို့ဖြင့် တည်အပ်ကုန်သော ရွက်လှေ သင်္ဘောတို့သာ ဖြစ်ကြကုန်၍ အလွန် ဝေးလှစွာသော (အတ်တလံတိတ်) စသော မဟာ သမုဒ္ဒရာသို့ ကူးသန်း သွားလာနိုင်ကြရန် ခဲယဉ်း ကြလေရကား အာရေဗျ သမုဒ္ဒရာ၊ သို့မဟုတ် ဘင်္ဂလားအော်သို့သာ ကူးသန်း သွားလာ နိုင်ကြ ကြောင်း ထင်ရှားလေ၏။

တနည်း လည်း၊ ဒမိဠ ဝါဏိဇ္ဇာ သဒ္ဒါပသဒ္ဒာ ။လ။ ဘဒ္ဒိယော ဩဒနေ အန္ဓကဇ္ဇာ အပေါဟသုံ။ ။ဟူသော ဒမိဠထူပဝင်ပါဠိ၌ မဂဓဘာသာအားဖြင့်(ဒမိဠ) လူမျိုး ဟူသည်ကို သက္ကတဘာသာအားဖြင့် (ဒြဝိဍ) လူမျိုး၊ ထို လူမျိုးတို့၏ ဘာသာအားဖြင့် (မူမေလ်)လူမျိုး၊ ပေါရာဏ ဘာသာအားဖြင့် (ကျေး)လူမျိုး၊ ယခုဝေါဟာရအားဖြင့် (ကလယ်) လူမျိုးဟု ခေါ်ဝေါ်အပ်၏။ ထိုလူမျိုးတို့၏နေ ထိုင်ရာ ပြည်နယ်ဌာနကား မဒရပ်ဝိရင်ခံမှစ၍ အိန္ဒိယ ကျွန်းဂျွယ်၏အဆုံးကိုမိရင်အငူမ္ဘုရာနယ်တဝှမ်းလုံးသည် ချင်း(ကလယ်) လူမျိုးတို့၏ ပြည်နယ်ဌာန ဖြစ်၏။ ထို ကလင်ခေါ် ကျေးကုန်သည်တို့ ကူးသန်းသွားလာရာ ဖြစ် သော မဟာသမုဒ္ဒရာသည် (နေဂါပတန်) စသော မြို့ကြီး ပြကြီးများမှ ကူးသန်းသွားလာ ကြကြောင်း ထင်ရှားသ ဖြင့် ဘင်္ဂလားအော်သာ ဖြစ်ကြောင်း ထင်ရှားလေ၏။

ဘင်္ဂလားအော်၌လည်း အရှေ့ဘက် ကမ်းရိုး၊ အနောက် ဘက်ကမ်းရိုးအားဖြင့် ပင်လယ် ကမ်းရိုး ၂-ခု တို့တွင် အဘယ်ကမ်းရိုးသို့ ကူးသန်း သွားလာကြ ပါသနည်း ဟု စဉ်းစားပြန်သော်....

တသ္မိံ ယောဝဋ္ဌာနေအနုပ္ပတ္တာအဟေသုံ။ ။ဟူသော ၎င်းဒမိဠ ထုပဝင် အဆိုအတိုင်း ဆံတော်ခြောက်ဆူတို့ ကို ယူဆောင်ကြွသွားတော်မူကြကုန်သော ရဟန္တာ အ ရှင်မြတ်တို့ ရောက်ရှိရာ ပစ္စန္တဒေသသို့ ကျေးကုန်သည် တို့ရောက်ကြကြောင်း။ ၎င်းပစ္စန္တ ဒေသ၌လည်း သာသ နာတော်ထက်ဝက်ကျော်လျှင် ဘုရားတဖန် ပွင့်လာပြန် သကဲ့သို့ ဆံတော်ခြောက်ဆူတို့သည်ကြီးစွာသော ပူဇော် သက္ကာရကို ခံကြရလတံ့ဟု ဆိုသဖြင့် ယခုသိရှိ ကြသည့် အတိုင်း အနောက်ဘက် ပင်လယ်ကမ်းရိုး တလျှောက် သည် သီတာရာမတို့ကိုသာ ယုံကြည် ကိုးကွယ်ကြကုန် သော ဘာသာအယူ လူအမျိုးမျိုးတို့၏ နေထိုင်ရာ ပစ္စန္တ ဒေသဖြစ်နေပါ၍ အနောက်ဘက် ပင်လယ်ကမ်းရိုး တ လျှောက်ကို မမှတ် ယူထိုက်ပေ။ သာသနာတော် ထက် ဝက်ကျော်လျှင် ပူဇော်သက္ကာရကို မချမလွဲ ပြုကြလ တံ့ ဖြစ်သော အရှင်သောဏ အရှင်ဥတ္တရ ရဟန္တာ ၂ ပါး တို့၏ အဆုံးအမတော်ဖြင့် ယဉ်ကျေးပြီးရှိနှင့်ကြကုန် သော ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့ နေထိုင်ရာ ဒေသ [(ဒမိဠ) ကျေးကုန်သည်တို့ ကူးသန်းသွားလာရာ မဟာ သမုဒ္ဒရာသည်လည်း ဘင်္ဂလားအော်ပေတည်း] ဟု သိ နိုင်ရုံမျှမက အရှေ့ဘက် ပင်လယ်ကမ်းရိုးတလျှောက်ဖြစ်

ကြောင်းကို အာကာမြင့်တိမ်ယံမှာ ဗျိုင်းပျံ၍သွားသကဲ့သို့ ထင်လျှားစွာ သိထိုက်လှပေပြီ။

ထိုကြောင့် သစ်ပျဉ် သစ်ချပ်တို့ဖြင့် တည်လုပ် အပ်သော ရှက်သွင့် သင်္ဘောပင် ဖြစ်လင့်ကစား သုပ္ပါရက ဇာတ် အဋ္ဌကထာကို ထောက်လျှင် သုပ္ပါရက သင်္ဘောသူကြီးသည် ခုရမာလီ အဂ္ဂိမာလီ၊ ဒဓိမာလီစသော သမုဒ္ဒရာတို့ကို ကျော်ဖေါက်၍ အမေရိကသို့ အကယ်သွားရောက်နိုင်စေကာမူ ဤအရာ၌ သာသနာတော် တဝက်ကျော်လျှင် ပူဇော် သက္ကာရကို မချမလွဲ ပြုကြလတံ့ ဖြစ်သောပဋ္ဌန္နဒေသနှင့်စပ်လျဉ်းသောပင်လယ်ကမ်းရိုးသာလျှင် ပဓာနဖြစ်သင့်ပေသည်။

အရှေ့ဘက် ပင်လယ်ကမ်းရိုးတန်း တလျှောက်တွင်လည်း အဘယ်ဌာနဖြစ်ထိုက်ပါသနည်း ဟု စဉ်းစားပြန်သော် ရဟန္တာအရှင်တို့သည် စေတီတော်များတည်ထားကြရန် မြေဌာနကို ရွေးချယ်တော်မူကြလေရာ သာခါက်ရ ဝန သန္တိကံ အစ္ဆရာ သဒိသံ ဝဏ္ဏံ ရမဏီယာ ဘူမိဘာဂံ ဒိသွာ ဟူသော သက္ကတူပဝင်ပါဠိ၌ အာရုဏ်အဆင်းနှင့်တူသော (ဂဝံ ခေါ်မြေနီရှိသောဌာနကို ပြဆိုအပ်သည်ကိုထောက်သဖြင့်ရင်း၊ ပရမရမ္မဏီယံကေလာသ ပဗ္ဗတ သန္တိကံ၊လ၊ ရမ္မဏီယံ ဇာတံ ဌာနံ ဒိသွာ ဟူသော ပဇ္ဇုန္နထူပဝင်ပါဠိ၌လည်း ကေလာသ တောင်နှင့် တူသော တောင်ရှိရာဌာနကို ပြဆိုအပ်သည်ကိုထောက်သဖြင့်ရင်း သခ္ဂရှိသော ကေလာသတောင်ကို အာဋ္ဌာဝက ဝဏ္ဏလာ

ဟိမဝန္တာအနီးရှိ ကေလာသတောင်အစစ်နှင့် သဒိသပြု၍ ရှေးရှေး စဉ်လာကပင် ပညတ်တွင် လာရ ခြင်းသည် (ကေ- လာသတိ ဒိဗ္ဗတိတိ ကေလာသော) ဟူသော ဖြုပ္ပတ်ကို စွဲမှီ၍(ကေလာသော ဝိယာတိကေလာသော) ဟု ပညတ်ထားဟန် လက္ခဏာကို ထောက်သဖြင့် ၎င်း၊ ငါတို့သည်လည်း ကေလာသ တောင်နှင့် တကွ ထိုနယ် ပယ်ဌာန၏ အနေအထားကို ကိုယ်တိုင်တွေ့မြင်ရသဖြင့် ၎င်း၊သထုံမြို့ဒိစတြိတ် (ဘီးလင်း) ခေါ်မြို့နယ်ဌာနသည် ဆံတော် စေတီတော်ကြီး ခြောက်ဆူတို့သည် သာသနာ တော်ထက်ဝက် ကျော်လျှင် ထင်ရှား ပေါ်ထွန်းတော်မူ ကြလတံ့သော ဌာန၊ ကြီးစွာသော ပူဇော်သက္ကာရကို ခံကြရလတံ့သောဌာနပေတည်းဟု ငါတို့ယုံကြည်သည်။

၎င်းပြင် ငါသည် ရဟန်းငယ်ကာလ ငါးဝါရလောက် က ၎င်းဆံတော် စေတီတော်ကြီး ခြောက်ဆူ တို့၏ အ ကြောင်းနှင့် စပ်လျဉ်း၍ ဇလွန်မြို့ နာဂဝံတိုက်ကြီး၌ သီ တင်းသုံးတော်မူသော ပရိယတ္တိ ဝိသာရဒ တိပိဋကရေ ဖြစ်တော်မူသော (**သီရိမွေ့ခလင်္ကာရ**) ဆရာတော်ဘုရား ကြီးအား လျှောက်ထား ဘူးရာ၊ ဟဲ့ ရဟန်းကလေး ငါ ကိုယ်တိုင် သွားရောက်ဘူးပြီ၊တောထဲချုံထဲမှာ ကန်ပျက် ဂူပျက်မှစ၍ အဆောက် အဦ အများအစား ငါ တွေ့ရှိခဲ့ သည်၊ ဤနေရာ ဌာနကား ဟုတ်ထိုက်သော ဌာန ပေ တည်း ဟု အမိန့်ရှိတော်မူဘူးလေပြီ။

၎င်းပြင် ဟသ်ာတမြို့၌ သီတင်း သုံးတော်မူကြကုန် သော ပရိယတ္တိဝိသာရဒ ပိဋကတ္တယပိဋ္ဌ ဖြစ်တော်မူကုန်

သော ရေတံခွန်ဆရာတော်၊ လယ်တီဆရာတော်၊ ဘုရားကြီး ဆရာတော် တို့သည် ထိုနယ် ဌာနသို့ ကြွရောက်တော်မူကြစဉ် အခါက ကျိုက်ကသာမှ စ၍ ကေလာသတောင်ခြေတလျှောက်၌ သမုဒ္ဒရာ ကမ်းပါးပြိုစားပျက်စီးနေသည်ကိုတွေ့ရှိတော်မူကြ၍ (**ကေလာသတောင်သည် ရွက်လှေများ ဆိုက်ရာ မြို့ကြီး ပြကြီး ဖြစ်လတံ့**) စသော ရှေးတလိုင်းသူဟောင်းတို့၏ စဉ်လာစကားကို စဉ်းစားတွေးခေါ်မိကြသည့်ပြင်ယခုရေးသားအပ်သော ဗျာဒိတ်တော်များအတိုင်းဖြစ်လတံ့ကုန်သော်ဝိသေသအံ့ဘွယ်များကိုလည်း အထူးသတိပြုတော်မူကြ၍ ယုံကြည်တော်မူ ကြကြောင်းကို အမိန့်တော် ရှိဘူး ကြလေသည်။

ဝင်းပြင် (၁၂၈၇)-ခုနှစ် သထုံမြို့၌ များလှစွာသော ရဟန်းပရိသတ် လူပရိသတ်တို့အား ဝင်းဆံတော်တရားကို ဝိဿဇ္ဇနာရဟောကြားလေရာ၊ သထုံမြို့မြသပိတ်တောင်ခြေ စန္ဒာရုမ်တိုက်၌ သီတင်းသုံးတော်မူသော ပရိယတ္တိဝိသာရဒ လင်္ကာပေသလဖြစ်တော်မူသော အရှင် (**သန္ဒာနန္ဒာဓိဇ္ဈာ**) ဆရာတော်ဘုရားသည် တရားဟောပြီးသော အဆုံး၌ မိန့်တော်မူသည်မှာ ညောင်ချောင်း ဆရာတော်၊ ယခု ဆရာတော် ညွှန်ပြ အပ်သော ဤနေရာဌာန သည် ရှေးရှေးသောကာလကပင်မကြာခဏအံ့ဘွယ်ဘနန်း အလွန်ထူးဆန်းသောစေတီတော်ကြီးများကို တောထဲ၊ ချုံထဲမှာ တွေ့ရှိဘူး သူများကြလှပါပြီ။ လွန်ခဲ့သော အနှစ် (၂၀) လောက် က ကိုပေါက်ကျိုင်းခေါ် ဒါယကာ တယောက်သည် ထိုတောသို့ ရောက်ရှိရာ အံ့ဘွယ် ဘနန်း

အလွန် ထူးဆန်းသော စေတီတော်ကြီး တဆူကို တွေ့ရှိပြန်၍ သစ်ပင်ကို ဓါးဖြင့်ထစ်၍ အမှတ် အသား ပြုလုပ်ထားပြီးလျှင် မြို့အုပ်မင်း ဦးသာညိုအားပြောကြား သောကာလ မြို့အုပ်မင်းလည်း လူကြီး လူကောင်းတို့ကို- နှိုးဆော်၍ အဖူးအမျှော်သွားရောက်ရာ၊အမှတ်အသား ဓါးထစ်၍ ထားခဲ့လေငြားသော်လည်း ကွယ်ပျောက်၍သွားပြန်၏။ ဤသို့မကြာခဏ အံ့ဘွယ်ဘနန်း အလွန်ထူးဆန်းသော စေတီတော်ကြီးများကို ဖူးတွေ့ ကြရသဖြင့် သာသနာတော် ထက်ဝက် နိုးသောကြောင့် နတ်တို့သတိပေးသည်နှင့် အလား တူပါသည်။ ရည်သန်တော်မူသည့် အတိုင်း နောက်သား နောင်လာတို့ အကျိုး၄ါ သိလက္ခရာကျောက်စာကမ္ဗည်းဖြင့် သိပ်သည်းစွာ ရေးသား၍ ကောလာသ တောင်မြင့်ဖျား၌ ဆက်ဆက် စိုက်ထားခဲ့ပါဟု တိုက်တွန်းတော်မူလေသည်။

ထိုဆရာတော်ဘုရား၏တိုက်တွန်းချက်စကား၌နတ်တို့သတိပေးသည်နှင့်အလားတူပါသည်ဟူရာ-ဂုဏ္ဍဒေဝတာ စေတိယံတုသိတ္တွာ ယာဝဋ္ဌ ကာလာဝိ ဒိဿာယုကာ ဟုတ္တွာ တံစေတိ ယံရက္ခတိ။ ။ဟူသော အဋ္ဌကထာပိဋကထုပ္ပဝင်ပါဠိ၌လာရှိသော ဂုဏ္ဍစိုးနတ်သည်ပင် သတိပေးဟန်တူသည်ဟု စဉ်းစားမိသည့်ပြင်၊ သထုံဒိစတြိတ် (ဘီးလင်း)မြို့နယ် ဌာနသည့် မချကောန် အမှန်ဟုတ်ထိုက်သော ဌာနပေတည်းဟု ငါတို့ယုံကြည်သည်။

သာသနာတော်ထက်ဝက်ကျော်လျှင် ဇင်း (ဘီးလင်း) ခေါ်မြို့နယ်ဌာန၌ ဆံတော် စေတီတော်ကြီး ၆ ဆူပေါ်

တော်မူကြပြန်သော် ပဋ္ဌာန်နံ့တ်မင်းတည်ထားအပ်သော ဆံတော် စေတီတော်ကို အကြောင်းပြု၍ ရဟန္တာကြီး ၆ ပါးတို့က ဗျာဒိတ်တော်ထားကြပြန်သည်မှာ--

(၁) ဇူဒ°စေတိယံ အနာဂတေ သတဗျာမံ ဘဝိဿတိ။

(၂) ဇူခေဝ ခမ္ဘရာဇာပိ ဘဝိဿတိ။

(၃) တံပန စေတိယံ ပဋ္ဌာသောဏ္ဍာသ စေတိ ယန္တံ ပါကဋ°။

ဟူ၍ (၃) ခွန်းကုန်သော ရွှေဗျာဒိတ်တို့ကို မိန့်ဟကျူးရင့်တော်မူကြပြန်လေ၏။

(၁) ဇူဒံစေတိယံ၊ ဤစေတီတော်သည်။ အနာဂတေ၊ သာသနာတော် ထက်ဝက်ကျော်သော နောင်အနာဂတ်ကာလ၌။ သတဗျာမံ၊ အလံ(၁၀၀)သည်။ ဘဝိဿတိ၊ ဖြစ်လတံ့။

ဤကား သာသနာတော် ထက်ဝက် ကျော်သော နောင်အနာဂတ်ကာလ၌၊ အလံ(၁၀၀) မြေမှ ဖွင့်ဖွင့် ပေါ်မြင့်လတံ့ကို မြင်တော် မူကြောင်း--(ပဌမ) ဗျာဒိတ်။

(၂) ဇူခေဝ၊ ဤဆံတော် စေတီတော် ကိန်းဝပ်စပျော်တော်မူရာ ဒေသ၌ပင်လျှင်။ ခမ္ဘရာဇာပိ၊ ခမ္ဘရာဇာမင်းကောင်းသည်လည်း။ ဘဝိဿတိ၊ ဖြစ်လတံ့။

ဤကား သာသနာတော် ထက်ဝက် ကျော်သော နောင် အနာဂတ် ကာလ၌ ငါတို့ ဆုံးဖြတ်ခဲ့သော

{ဘီးလင်း} ခေါ် မြို့နယ်ဒေသ၌ ဓမ္မရာဇာ မင်းကောင်း ပေါ်ထွန်းလတံ့ကို မြင်တော်မူကြောင်း– (ဒုတိယ) ဗျာဒိတ်။ ။ဤကို ရည်၍ ရှေးသူဟောင်းတို့သည် (သာသနာတ၀က် မင်းကောင်းတဆက်) ဟု ပြောစမှတ်ပြုကြကုန်၏။

(၃) တံပနစေတီယံ၊ ထိုစေတီတော်သည်။ ပဉ္စာ၊ သာသနာတော် ထက်ဝက်ကျော်သော နောင် အနာဂတ်ကာလ၌။ သောဠာယစေတီယန္တိ ၊သောဠာယစေတီဟူ၍။ ပါကဋ္ဌံ၊ကျော်စောသည်။ ဘဝိဿတိ၊ ဖြစ်လတံ့။

ဤကား သာသနာတော် ထက်ဝက် ကျော်သော နောင် အနာဂတ်ကာလ၌ ''သောဠာယစေတီ'' တော်ဟု ဘွဲ့မည်တော် တွင်လတံ့ကို မြင်တော် မူကြောင်း(တတိယ) ဗျာဒိတ်။

ဤသို့ ပြဆိုအပ်ကုန်သော ဗျာဒိတ်တော် (၃) ခွန်းတို့တွင် ပဉ္စမဗျာဒိတ်တော်လာ ''အနာဂတေ'' ဟူသော ပုဒ်ကို ''သာသနာတော် ထက်ဝက်ကျော်သော နောင်အနာဂတ်ကာလ၌'' ဟု ယောဇနာခဲ့ရာ၌ထက်ဝက်မှ နှစ်ပေါင်း ဘယ်မျှလောက် ကျော်အောင် ဆိုင်း၍ စောင့်လင့် ရဦး မည်နည်းဟု တွေးတောဆင်ခြင်ရန်ရှိ၏။ အထက်၌ ပြဆိုခဲ့ကုန်သော ဘုရားဗျာဒိတ်တော်(၃)ခွန်းတို့တွင် တတိယ

ဗျာဒိတ်တော်လာ (တတောပရံ မဟာပုဇာ သတ္တာရော ဘဝိဿတိ) ဟူသော ဝါကျ၌ တတောပရံ-ပုဒ်တို့ဖြင့် (တတောပရံ ဘဝဂ်ပါတော) ၌ ကဲ့သို့ အနန္တရကာလ ( ၂၅၀၀ ) ပြည့်သည်မှနောက်တနှစ်ဟု ယူမှုလည်း သင့်တန်ရာ၏။ (တတောပရံ ဝိဠ္ဌာဟာရောဇဠူပဋ္ဌ ဝေါ္တိဋ္ဌ တိ)၌ကဲ့သို့ မြန်လျှင်၅-နှစ်အတွင်းလောက်၊ကြာလျှင်-၁၀ နှစ်အတွင်းလောက်ဟု အနူမာနနိုင်းဆဘွယ်လည်း သင့်တန်ရာ၏။

“သတဗျာမိ”ဟူသော ပုဒ်ကို အလံ (၁၀၀) ဟု ပေဘနာခဲ့ရာ၌လည်း၊ အလံ (၁၀၀) ဟု ဆိုလျှင် အတောင် (၄၀၀) မြင့်၏။အလွန်မြင့်လွန်းလှလေ၏။ ။သတဗျာမိ ပုဒ်၌၊သတ-သဒ္ဒါသည်၊သတပဋ္ဌာ၊သတပဒီ-စသော ပုဒ်တို့၌ သတသဒ္ဒါကဲ့သို့ ဗဟုတ္တဝါစက သင်္ချာသဒ္ဒါဖြစ်ထိုက်ရကား လွန်မူရွှေတိဂုဏ် စေတီတော်ထက် ၂-လံ-၃-လံ၊ယုတ်မူ ၂-လံ ၃ လံ ဟုယူမှုလည်းသင့်တန်ရာ၏။

ဒုတိယ ဗျာဒိတ်တော်လာ၊ ဓမ္မရာဇာပိ၊ ဟူသောပုဒ်အရ၊ ဓမ္မရာဇ်မင်းကောင်း ပေါ်ထွန်းလတံ့ ဟူသည့်အဘယ်မင်းကောင်းကို ဆိုလိုပါသနည်းဟု စဉ်းစားလင်သော်။ ။ခဋ္ဌိကောတိ- ဒသကုသလဓမ္မ သမ္ပန္နာဂတော အဂတိဂမန ဝိရဟိတော၊ ဓမ္မရာဇာတိ ဉာဏ်ပုရိမပဒသော ဝဝေဝစနံ။ ။ဟူသည်နှင့်အညီ၊ ကုသိုလ်ဓမ္မ ၁၀ ပါးနှင့် ပြည့်စုံ ညီညွတ်သောမင်း၊ မလိုက်စားအပ်သော အဂတိလေးပါးမှ ဖယ်ရှားရှောင်ကွင်းသောမင်းကို ဓမ္မရာဇ်မင်း

ပေတည်းဟုသုတ်မဟာဝါ အဋ္ဌကထာ မဟာပဒါနသုတ် ၌ ဖွင့်ဆိုလေငြားလည်း ဤ၌မလို။ ။(ပရိဟီတဓမ္မကရ ဘောနဝါဓမ္မိကော၊အတ္တဟိတဓမ္မကရဏောနဝါဓမ္မရာဇာ) ဟူသည်နှင့်အညီ-သူတပါးတို့၏ အကျိုး တည်းဟူသော ပရဟိတဓမ္မ၊မိမိ၏အကျိုးဘည်းဟူသော အတ္တဟိတဓမ္မ တို့ကို ပြုတတ်သောမင်းကို ဓမ္မိကဓမ္မရာဇာ မင်းပေ တည်း ဟုသီလက္ခန်အဋ္ဌကထာ အမ္ဗဋ္ဌသုတ်၌ ဖွင့်ဆိုလေ ငြားလည်း-ဤ၌မလို။

ဓမ္မရာဇာဒိ ပုဒ်၌လိုရင်းကား။ ။ဓမ္မေနေဝ ရာဇာ ဇာတောနံပိတုဃာတနာဒိနာအဓမ္မေနာတိဓမ္မရာဇာ။ ဟူ သည်နှင့် အညီ-အဘစသည်တို့ကို သတ်ဖြတ်၍ နန်းရပ် သိမ်းမြူကို မလုယူသောမင်းကိုဓမ္မရာဇ်မင်းပေတည်း ဟု သီလက္ခန်အဋ္ဌကထာ သာမည ဖလသုတ်အဖွင့် သာရတ္ထ ဒီပနီဋီကာစသည်တို့၌ ဖွင့်ပြတော်မူကြလေရကား အဘ စသည် သတ်ဖြတ်၍ နန်းရပ်သိမ်းမြုကို ဘယ်ခါမှ လုယူ လေ့မရှိသော ယခုတိုင် မြန်မာနိုင်ငံတော်ကြီးကို လက် ရမိမိ သိမ်းပိုက်လျက်ရှိသော ပတ်ဝန်းကျင် တိုင်းသခင် တို့ နှိုင်းယှဉ်မခံ့ အခင်းခင်း ရွှံ့ရသော အင်္ဂလိပ်မင်းကိုပင် ဓမ္မရာဇ်ဟုကောက်ယူမှသာတော်လိမ့်မည်ဟုထင်သည်။

(ဤသည်ကား အင်္ဂလိပ်မင်း လက်ထက်ဖြစ်၍ ဆရာတော်ဘုရား ကြီးက ဥပဒေဖြင့် မငြိစွန်းစေရန် ပရိယာယ် သုံးခြင်းမျှသာ ဖြစ်သည်။ ယခုမူ လွတ်လပ်ပြီး တိုင်းပြည်ဖြစ်သည့် အပြင် နိုင်ငံတော် အစိုးရသည် လည်း သာသနာတော်ရေးကို အထူးဂရုစိုက်လျက် ရှိရာ သာသနာ တ ခက်ကျော်သောအခါ နိုင်ငံတော် အစိုးရမှာ ဘုန်းကံ ပွင့်ချိန် တန်လိမ့် မည်ဟု ယုံကြည်ရပေသည်။ ။ထုတ်ဝေသူ။)

ဤခမ္မရာဇာပိ-ပုဒ်၌ ပိသဒ္ဒါကား ဝဍ္ဍာပေက္ခ အဝုတ္တ သမုစ္စည်းတည်း။ ဝဍ္ဍာပေက္ခကား-ဓမ္မရာဇာမင်းကောင်းလည်း ပေါ်ထွန်းလတံ့၊ စေတီတော်လည်း အလံ(၁၀၀) ပေါ်မြင့်လတံ့ဟုဆိုလိုသည်။ အဝုတ္တ သမုစ္စည်း ကား-ဓမ္မရာဇာမင်းကောင်းလည်း ပေါ်ထွန်းလတံ့၊ ဒမိဠ ထုပ ဝင်၌။ ။ ကေသဓာတူနံ နိဝါသနဋ္ဌာနတ္တာ ကေသဝတီ တိနာမံ အာလပတိ။ ။ ဆိုလတံ့ရကား- ကေသဝတီ မည်သောမြို့တော်ကိုလည်း ဖန်ဆင်းတည်ထောင် လတံ့ ဟု ဆိုလိုသည်။ (ဓမ္မရာဇာပိ)ဟု ဋ္ဌာနီမင်းကိုပြဆိုသဖြင့် ဋ္ဌာနမြို့တော်ကိုလည်း အဝုတ္တ သမုစ္စယတ္ထဖြင့် ကောက် ယူထိုက်ပေသည်။ ထို့ကြောင့် ငါတို့ ထင်မြင် အပ်သည့် အတိုင်း ဗျာဒိတ်တော်လာ သိုက်တော်ပါ ဖြစ်ပေသော အင်္ဂလိပ်မင်းတို့ကလည်း ရဟန္တာအရှင်မြတ်တို့၏ ကျူး ရင့်တော်မူအပ်သော ရွှေဗျာဒိတ်တို့ကို တစိပ် တဒေသမျှ အကယ်၍ ယုံကြည်ခဲ့ပါက ကေသဝတီ မြို့တော် ကြီး တည်ထောင်ရန် အချိန်ကာလနီးကပ်ရုံမျှကော ကျိုက်က သာကေလာသတို့၌လည်း နောင်ရေကြီး တက်ကြီးများ ဆိုက်ကပ်စရာ မဟာသမုဒ္ဒရာကြီး ပြုစားပုက်စီး၍ ယခု နီးကပ် လာသော အကြောင်းဟိတ် များကို ဆင်ခြင် ထောက်ထား၍ ကေသဝတီ မြို့တော်ကြီး တည်ထောင် ရန် စီင်သင့်လှပေပြီဟု ငါတို့အထူး မှောင်လင့်သည်။

(ရှာဓေဝ ဓမ္မရာဇာပိ ဘဝိဿတိ) ပဌားသော ဒုတိယဗျာ ဒိတ်၌ ရှာဓေဝ၊ ပါဘဝိဿတိ သဒ္ဒါတို့သည်(နေကောနေကဋ္ဌ

ဝိသယာ)ဟူသည့်နှင့်အညီ အနက်အရော များလှစွာရကား ယခု ငါသည် သဓ္ဓိလာဘ္ဘန်အဌကထာ၊ သာရတ္ထဒီပနီ ဋီကာ စသော ကျမ်းကြီးများကို ထောက်ထားကိုးကား၍ ရေးသား ဆုံးဖြတ်အပ်သော အနက်အဓိပ္ပါယ်မှ ပြင်ဘက် အထူး ကွန့်လွန့်၍ အတွန့်မတက်ရာ။ ။ငါတို့ မြန်မာနိုင်ငံတော်ကြီးကို အင်္ဂလိပ်အစိုးမင်းတို့ မသိမ်းပိုက်စဉ် ကာလ ရှေးယခေါင်ကပင် တဦးသည် တဦး-ကို သို့မဟုတ် တယောက်နှင့်တယောက် (က-ဖျက် ယ-ဖျက် မလုပ်ကြနှင့်) ဟုပေါရာဏပညာရှင်တို့၏ သွန်သင်ပြသ ဆုံးမစာ အကျဉ်းကို နှလုံးသွင်း ပြုကြ၍ သူတို့၏ (၁၂၄-က) ကို ကျော်နင်း ဖေါက်ဖျက် လိုက်ပါက (မိမိတို့-ယာ) ပျက်တတ်လှ သောကြောင့် က-ဖျက် ယ-ဖျက်နှင့် မထိ မရှရအောင် သတိကောင်း ဆောင်သင့်လှလေသည်။

(ဤအချက်၌လည်း အင်္ဂလိပ်မင်းလက်ထက်ကခေတ်စားနေသော ပုဒ်မ ၁၂၄-က နှင့် မငြိမစွန်းစေရန် သတိပေးတော်မူခြင်းဖြစ်သည်။ဆရာတော်ကြီး၏ အလိုမှာ သာသနာကို ကြည်ညိုသော သာသနဒါယကာ မင်းမြတ်ကိုပင် ရည်စူးဟန်တူသည်။ ။တနည်း-ခေတ်နှင့် စေဘာန်လျှင်ရွှလ- မဟာသောတာပန် အများဆုံးပါဝင်သော အစိုးရအဖွဲ့ဖြစ်၍ လောကုတ္တရာကုသိုလ်ကိုသာလျှင် အရေးတကြီး အားပေးသော အစိုးရ အဖွဲ့ ဖြစ်စေရမည်။ ကာမ ရူပ အရူပ ကုသိုလ် များကို လောကုတ္တရာ ကုသိုလ်ထဲသို့ ထည့်၍မစဉ်းစားရ။ ။ထုတ်ဝေသူ။)

ယခုရေးသားပြဆိုအပ်ပြီးသော ဘုရားဗျာဒိတ်တော် (၄) ခွန်း၊ရဟန္တာဗျာဒိတ်တော်(၃) ခွန်း၊ပေါင်းဗျာဒိတ်တော်(၇) ခွန်းတို့ကို နှောင်အနာဂတ်ကာလ၌ ဖြစ်လတံ့

ဘုန်သော ဝိသေသာကာရတို့ကို ညွှန်ပြတော်မူအပ်ကုန်သော စကားတော်များ ဖြစ်ကြသောကြောင့် **ဘုရားရဟန္တာဘုံ့၏ (သိုက်) ဟူ၍ငြင်း၊ (အဟောဘောဘာဓိ) ဟူ**၍ဖွင်း၊ ခေါ်ထိုက်သင့်လှ၏။ ဖွင်းအဟော စာတမ်း အရသထုံဒီစတြိတ် (ဘီးလင်း) ခေါ် မြို့နယ်ဌာနကို ညွှန်ပြရေးသားလိုက်ရခြင်းသည် ငါတို့ပိဋကတ် ကျမ်းစာတို့၌လာရှိသော ဒေသနာတို့သည် များသောအားဖြင့် သကာရုဘျမ်းစာ များ၌ကဲ့သို့ ထင်လျှားစွာ ဖော်ပြ၍ ဤနေရာဤဒေသတည်းဟု ညွှန်ပြကြသည်မဟုတ်ရကား—

ဆိုအပ်ခဲ့ ပြီးသောအယောက်အဝါး ပညာရှိ အရှင်များတို့နှင့် တိုင်းစာဆင်ခြင်၍ ထင်မြင်ချက် အားဖြင့်သာ နိတဥ္စအရာ၌ ထား၍ရေးသားရခြင်းဖြစ်ပေသည်။ ထို့ကြောင့် သာသနာတော်ထက်ဝက်ကျော်သော နောင်အနာဂတ်ကာလ၌ ငါတို့ထင်မြင်အပ်သော (ဘီလင်း) ခေါ် မြို့နယ်ဌာန၌ဖြစ်စေ အကယ်၍နေရာဌာန ကွဲလွဲခဲ့ပါသော် (ဘီးလင်း) ခေါ်မြို့နယ်ဌာနမှ ဂါဝုတ် ယူဇနာအနီးငယ် ဝေးကွာသောမြို့နယ်ဌာန၌ဖြစ်စေ (ဏှာင်စေတီသံအနာဂတေ သတဗျာ ဘဝိဿတိ) ဗျာဒိတ်တော်လာရှိသော(**သေဋ္ဌားယ**)စေတီတော်သည်ဇနပုဒ်တိုင်းသူတို့ပူဇော်ရာဖြစ်ကြန် ဆံတော်ဓာတ်မှန်ပါသည်ဟု သက်သေခံအလား ရွှေတောင်ကြီးငါးသကဲ့သို့ ဘုရားကန် ပေါ်မြင့်တော်မူလာပါလိမ့်မည်။ နောက်သားနောင်လာတို့ အထူးသတိ ပြုကြပါစေသတည်း။ ။

## "ဆရာတော်၏မှာတမ်း"

ယခု (၁၂၈၈ ခုနှစ်) ၌ ငါ၏ အသက်သည် ၆၀-တိတိ ပြည့်ရှိနေသည်ဖြစ်ပါ၍ သာသနာတော်ထက်ဝက်လဲမည့် မှာ အနှစ် (၃၀) လိုလေသေးရကား၊ ငါ၏အသက်ကိုဆင် ခြင်လျှင်သောဏ္ဍာယာ စေတီတော်၏ အံ့ဘွယ်အထူးကို ဖူးနိုင်ခွင့်မမြင် ကွယ်လွန်မည် ထင်ပါသည်။ သာသနာ တော်ထက်ဝက်ကျော်လျှင် မြေမှစွင့်စွင့် ဘွားကနဲ ပေါ် မြင့်၍ ထွန်းတင့်တော် မူလတံ့သော (သောဏ္ဍာယ) စေတီတော်သည်။ ။စေတီ ယင်ဏံ သောဏပေတွာ တဿ သမန္တာတော ပါကာရံ ပရိက္ခိပိတွာ။ ။ဟု စေတီ တော်ယင်ပြင်ကို သန့်ရှင်းစွာ သုတ်သင်၍ထက်ဝန်းကျင် အရပ်၊ တံတိုင်းတော်ခတ်ကြောင်းကို ပြဆိုတော်မူသော ကြောင့် ငါသည် အကယ်၍ ဗုတိမနေကွယ်လွန် လေလျှင် ကေလာသတောင်မြင့်ဖျား၌စိုက်ထားခဲ့သော၍ကျောက် စာကို သဒ္ဓါတိုးပွားအမျိုးသားတို့က သောဏ္ဍာယစေတီ တော်၏ တံတိုင်းတော်အတွင်း၊ သင့်လျော်သော မြေအ ခင်းသို့၊ ဆောင်ကြဉ်းစိုက်ထူကြ စေကုန်သတည်း။

အကယ်၍ အသက်နှင့် ကမ်၊ ဤနှစ်တန်သည် စိမ့် ထောက်မ၍ ရာပြည့်အောင် နေရငြား သော် လည်း၊ (ဇရာဇဇ္ဇရိတာ ဟောန္တိ) ယင်း ပါဠိအရ၊ ဇရာ၏လက် တွင်းသို့ သက်ဆင်း နေရသည့် အပြင် ခေါမှုဟာဒသက အရွယ်သို့ကျသဖြင့် သူငယ်ပြန် ခေါ်ဝေါ်ကြသော ဒုက္ခ နှင့်မရှင်း သတိဉာဏ် လွတ်ကင်းသဖြင့် အရပ်ဟံ- အစ

ဂုဏ်ကိုးဝကို စိတ်ကကြည်နူး သောဏ္ဍာယ စေတီတော်၏ အံ့ဘွယ်အထူးကို ဖူးနိုင်ခွင့် ကြောင့် ရလိမ့်မည့် မှန်ပါလျှင် တဖန်ဘုရား ပွင့်သောလားသို့ အားရဝမ်းသာ ဖူးရပါအောင် သဒ္ဓါတိုးပွါး အမျိုးသားတို့က သောဏ္ဍာယ စေတီတော်၏ ဘိနပ်တော်အပါး စိုက်ထူသောကျောက်စာနားသို့၊ ငါ့အား-ပို့နိုင်ကြပါစေကုန်သတည်း။

—:o:—

## သောဏ္ဍာယစေတီတော်ကြီးကျောက်စာ

### နိဂုံး

မင်္ဂလာခြည်ရှိန်၊ ကပ်လုံးထိန်စိမ့်၊ အစိန္တေယျ၊ ဂုဏ်ပေါင်းခသည့်၊လောကထွန်းဖျား၊မြတ်ဘုရား၏၊မှတ်သားဗျာဒိတ်၊ နက်ဝိသိဋ္ဌဝယ်၊ အတိတ်နာဂတ်၊ ပိုင်းဖြတ်ဝဗ္ဗမာန်၊ သုံးတန်ကာလ၊ တွက်ရေပြသော်၊ ဆဋ္ဌာဘိညာ၊ ရဟန္တာမြတ်၊ ခြောက်ပါးနတ်အား၊ ဆံဓါတ်ခြောက်ဆူ၊ နှင်းတော်မူသား၊ ဇမ္ဗူမဏ္ဍလ၊ ပြောကျယ်စွဝယ်၊ကာလနောင်ခါ၊ဖြစ်သင့်ရာကို၊ အနာဂတ်၊ နှိုင်းစံမယှဉ်၊ အဘိညာဉ်ဖြင့်၊ အစဉ်ရှုထွေ၊ မြွက်ဟောပေသား၊ ဆကေသဓါတ်၊ဝံသမှတ်သည့်၊ကျမ်းဖြတ်သိဂီ၊နာရထိကား၊သသီယုန်ရုပ်၊တိမ်မြုပ်အုပ်သို့၊ကွယ်မြုပ်ရှိရာ၊ဈေးဆရာတို့၊ဘာသာ ရေ၊ဒေသနာရ၊ မကျွမ်းကြ၍၊ မှန်းဆမမျှော်၊ ရှိလေသော်တည်း၊အနော်ပမ၊သမ္ဗုဒ္ဓ၏၊ ထုတ်ပြမိန့်မှာ၊သာသ

နာစက်၊ငါးထောင်ဝက်၌၊ စည်ချက်နှာဟန်၊ မြေကြွန်မင်
လာ၊ ကေလာသထိပ်၊ စက်ရိပ်နယ်ကုန်၊ အရုဏ်ရောင်
ဆင်း၊မြေတလင်းဝယ်၊ထွန်းမင်းမွှေရာဇ်၊ဘုန်းကျိုးလှစ်၍၊
ခုနစ်အင်္ဂါ၊သမ္မာပုဏ္ဏ၊ ကေသဝတီ၊ ပူရီသမိုက်၊ ထီးနန်း
စိုက်လိမ့်၊ သုံးထိုက်ကေသီ၊ မွေသရီနှင့်၊ စေတီသွဏ္ဏ၊
(သောဏ္ဏာယ)လည်း၊ဗျာမသတာ၊မြေမှာစွင့်စွင့်၊ ငွါးငွါး
တင့်၍၊ ထွန်းပွင့်လိမ့်မည်၊ နာဂတ်ရှည်ကို၊ ထို၍နှောက်
မွှေ့၊ ပျောက်မရွေ့အောင်၊ နှောက်ရှေ့မြောက်တောင်၊
နှိုင်းဆောင်ဝေဌ၊ နယ်ပုံပြ၍၊ ဋ္ဌာနဉ်မှာ၊ ဖြစ်သင့်ရာဇ၏၊
ဘာသာသက္ကဋ၊သီဟဠနှင့်၊ပြာက္ကဋဟိန္ဒီ၊ဗင်္ဂလီအာဒိ၊အစ
ရှိသား၊ တိပိဋက၊မာဂဓ၌၊သာဋ္ဌကထာ၊ ဋီကာလက်သန်း
ဆန်းအလင်္ကာ၊လိမ္မာနှံ့သိ၊သီရိဘဒ္ဒန္တ၊ (ဥာဏာဝံသော)၊
မထေရ်ကျော်လျှင်၊ အဟောအဇ္ဇရိ၊ အံ့ဘွယ်ရှိသည့်၊
သိလက္ခရာ၊ ကမ္ဗည်းစာကို၊ ကမ္ဘာအဌန်း၊ သိစေညွှန်း
သည်။ ။မော်ကွန်းရွေစာသမိုင်းတည်း။ ။

အဇ္ဇရိယာဝတ ကျောက်စာပြီးပြီ။

ထွဋ်ခေါင်ဆရာတော်ဘုရားကြီး၏မြေး

ပိဋကတ္တသင်္ဂြိုဟ် ဒီပသဿနာဝဏ္ဏပါဠိဓာတ္တ

ဆရာကြီး—ဦးမြသိန်းထွန်း

ရေး

# သဒ္ဓမ္မရှင်းတမ်း


မူပိုင်ရှင်—ထုတ်ဝေသူ

(ဆန်းလိုက်) ဦးမောင်ကြီး

သာသနာ့မုခဓာတ်ပုံတိုက်

ဆူးလေဘုရားဝင်း—ရန်ကုန်မြို့။

## ဗျာဒိတ်တော်လာ—မဟာမိတ်

"ထိုနောက် သောမကြွက်မင်းသည် မြေဆီမြေဥ များကို တူးယူခဲ့၍ ထိုမြေဆီမြေဥတို့ဖြင့် မြတ်စွာဘုရား အား ပူဇော်သက္ကာရပြုလေသည်။ ဤသို့ ပူဇော်သည် ကို မြတ်စွာဘုရား ခံယူတော်မူ၍၊ ပြုံးတော်မူသည်။ ပြုံးတော်မူသည့်အကြောင်းကို ညီတော် အာနန္ဒာက လျှောက် ကြားသော်- မြတ်စွာ ဘုရားက ချစ်သား အာနန္ဒာ- ဤသောမကြွက်မင်းသည် ငါဘုရားသာသ နာတော်အနှစ် ၂၀၀၀ ကျော်သောအခါ ပါပမင်း တို့လက်ထက် သိုးဆောင်း ၁၂ မျိုးတို့တွင် ရုရှားလူမျိုး ဖြစ်လတ္တံ့။ ထိုရုရှားလူမျိုးမင်းသည် လက်နက်စကြာ အမျိုးမျိုးကို တတ်မြောက်၍ လက်နက်စကြာရှင် ဖြစ် လတ္တံ့။ ထိုလက်နက်ရှင်ဖြစ်သော ရုရှားမင်းသည် အပ ရန္တတိုင်းကြီးရှင် မြန်မာဘုရင်တို့နှင့် ချစ်ကြည်သော မဟာမိတ် ဖြစ်ကြလတ္တံ့ဟူ၍ ဗျာဒိတ်စကား မြွက် ကြားတော်မူသည်။ ။ဤကား သာသနာ့သိက်လာ ဒေ သနာတော်အရ ဆိုသောအကြောင်းတည်း။"

(မဟာဘိသက္က ပဏ္ဍိတ ဘွဲ့ခံ ပါဠိဆရာကြီး ဦးစောရေးသော ဦးအောင်ဇေယျအတ္ထုပ္ပတ္တိ-စာမျက်နှာ ၄၀ မှာကြည့်)

# နိဒါန်း

## တရား— တရား— တရား

### ရအောင်နာစမ်းပါ။

ဘာလဲတရား၊ ဓမ္မ-တရား၊ ဘာကြောင့် တရားလဲ၊ အပါယ်လေးပါး မကျဘို့၊ သံသရာဝဋ်ဆင်းရဲ မလယ်ဘို့၊ ပို့ဆောင် တတ်သော သဘောကို တရားမှတ်။ အတို ချုပ်မှာ- ဒိဋ္ဌိကွာဘို့-တဆင့်-တဏှာ-မာန ချုပ်ငြိမ်းဘို့၊ ဒါဘဲတရားမှတ်။

> စိတ်တရား၊ စေတသိက်တရား၊ ရုပ်တရား၊နိဗ္ဗာန်
> တရား။
> ပရမတ္ထတရား-၄ပါးမှတ်။ ၄ပါးလုံးပရမတ္ထမှတ်။
> တရားမှတ်။ ဘုရားစသော အရိယာတို့၏ ဉာဏ်
> မြတ်ဖြင့် သိအပ်သောကြောင့် တရားမှတ်။ ဒါ့ပြင်
> မရှိဘူး။

စတုသု အပါယေသု-သံသာရဝဋ္ဋဒုက္ခေသုစ၊ အပတ မာနေကတွာ-ဓာရေတီတိ ဓမ္မော။ ၊စတုသု- လေးပါး ကုန်သော၊ အပါယေသုစ- အပါယ် လေးပါး တို့၌၎င်း၊ သံသာရဝဋ္ဋဒုက္ခေသုစ- ဇာတိစသော သံသရာ-ရုပ်နာမ် မပြတ်-ဆက်စပ်သော သံသရာတို့၌၎င်း၊ အပတမာနေ- အောက်သို့ပြန်၍ မကျရလေအောင်၊ ကတွာ-အထောက် အပန့်ပြု၍၊ ဓာရေတိ- တဆင့်ထက် တဆင့် နိဗ္ဗာန် တိုင်

အောင်ပို့ဆောင်တတ်၏၊ဣတိတသ္မာ-ထိုကြောင့်၊ဓမ္မော၊
တရားမည်၏။(ရေခေတ်-ရမ္မပစ္စည်း။) ရေခေတ် အရ-
သဘာဝဓမ္မသန့်သန့် တရားသဘောကောက်။ ရမ္မပစ္စည်း
အရ-မဂ္ဂဋ္ဌာန် ၄ယောက်- ဖလဋ္ဌာန် ၄ယောက် ကောက်၊
( မဂ်-၄ ဖိုလ်-၄ နိဗ္ဗာန်-၁ ကောက်၊ ရေခေတ်။)
( မဂ်-၄ ဖိုလ်-၄ နိဗ္ဗာန်-၁ ပရိယတ်-၁ ကောက်
ရေခေတ်။) ရမ္မပစ္စည်းအရမှာ ဒိတရားတွေ ရင်ထဲ၌ သိ
မြင်၍ ကပ်လျက်ဆောင်ထားသူ၊ ဘုရားစသောအရိယာ
လေးယောက်ကို ရချအားဖြင့်ကောက်။ ကလျာဏ ပုထုဇ္ဇ
သောတာပန် ပုဂ္ဂိုလ်တို့ကို ဥပစာအားဖြင့်ကောက်။

ပရိယတ် - စာပေ ကျမ်းဂန် သင်ခြင်း။
ပဋိပတ် - သီလ, သမာဓိ, ပညာ ပြည့်စုံခြင်း။
ပဋိဝေဓ - မဂ်ဉာဏ်, ဖိုလ်ဉာဏ်ကို ရခြင်း။
ဓမ္မ- တရားအစစ်ဟူ၍ ကောက်။

## ရှင်းတမ်းမှာ

စိတ်ထဲမှာ- အကောင် အထည်မပါဘူး၊ စေတသိက်
ထဲမှာ ဝတ္ထုပစ္စည်းမရှိဘူး၊ရုပ်ထဲမှာ ယောကျ်ား, မိန်းမ
အသက်ဇီဝ မတွေ့ဘူး၊ နိဗ္ဗာန်အတွက် ဆိုဘွယ်ရာ မရှိ
မှတ်။ ပုဂ္ဂိုလ်သတ္တဝါ မဟုတ်လျှင် စိတ်သဘာဝ၊ စေတ
သိက်သဘာဝ၊ရုပ်သဘာဝ မှတ်။နိဗ္ဗာန်သဘာဝကိုကား
ထားအုံး။ ရှင်းတဲ့ သူမှာ ရှင်းတယ်၊ မရှင်းသူမှာ
နိဗ္ဗာန်ကို တရားလို့ သိခဲလှ၏။ ပက်သလောက် ရေပါ
စေ-မိုးမပါလေနဲ့။

## ဆုတောင်းကြဒါ—သတိထား။

မဂ်တရား-ဖိုလ်တရား-နိဗ္ဗာန်တရား-မြတ်ကို-ရပါလို၏ ဆိုပေမဲ့-

မဂ်ကို-အကောင်အထယ်ယူတတ်တယ်။

ဖိုလ်ကို-ဝင်စားတဲ့လူကို ယူတတ်တယ်။

နိဗ္ဗာန်ကို ရောက်ရာဌာန-တခုလို့အယူရှိတတ်တယ်။

နိဗ္ဗာန်ကို-ရထားတဲ့-လူရယ်လို့-ယူတတ်တယ်။

နိဗ္ဗာန်ကို-လူ၏ခန္ဓာနှလုံးတွင်းမှာ ယူတတ်တယ်။

ခက်တယ်-ခက်ထာ အဘိဓမ္မာမှတ်။

တရားဟာတရားဘဲ။တရားထဲမှာ-ဘာမှမရှိဘူး။

ရှိနေသေးရင်-စိတ်ပရမတ်သဘောနားမလည်မှတ်။

ရှိနေသေးရင်စေတသိက်ပရမတ်သဘောမသိဘူးမှတ်

ရှိနေသေးရင် ရုပ်ပရမတ်သဘောကိုနဲနဲမျှမရိပ်မိမှတ်။

ရှိနေသေးရင်- နိဗ္ဗာန် ပရမတ် သဘော ကိုတော့-အလှမ်းဝေးလှ၏။

သူတော်ကောင်းတရား-သဒ္ဓမ္မမှတ်။

သူတော်ကောင်းနဲ့တရား-ခွဲခြား။

သူတော်ကောင်းထဲမှာ-တရားမရှိဘူး။

တရားထဲမှာ-သူတော်ကောင်းမပါဘူး။

ဝိပဿနာဉာဏ်ကို-ဘဲလွန်စပြလိုက်သည်။

မကွဲ့ရဲ့နဲ့-ဓမ္မအန္တရာယ် သင့်တတ်သည်။ မှီအောင်လိုက်၊လိုက်ရင် မှီတယ်။ကိစ္စ-မပြီးသေး-မီးမအေး။

နိဒါန်း-သင့်ရုံမှတ်။

# သောတာပန်တွေ ဒုခဲ့ ဒေး

ဘာဘဲလုပ်နေနေ၊လူတိုင်း သောတာပန်အမြန်ဖြစ်၍၊ သဒ္ဓါ,သီလ,သုတ,စာဂ, ပညာ, ဟိရိ, ဩတ္တပ္ပတည်းဟူ သော-သူတော်ကောင်း ဥစ္စာရတနာ-၇-ပါးနှင့် အလိုလို ပြည့်စုံကြစေရန်—

**ဗိဋကတ္တယပါရဂူ-ဝိပဿနာစမ္မပါမောက္ခ**

**ဆရာကြီး- ဦးမြသိန်းထွန်း**

ရေး

## သာသနမုခကျမ်း

နှင့်

## ဘာသာရှင်းတမ်းအလင်းကျမ်း

တို့ကိုကြေကြေညက်ညက်ဖတ်ကြပါ။

**သာသနမုခ စာအုပ်တိုက်**

ဆူးလေဘုရားဝင်း၊ရန်ကုန်မြို့။

# သဒ္ဓမ္မရှင်းတမ်း

နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

ဘဂဝတော၊သမထတန်ခိုး၊ မြေလျှိုးမိုးပြန် ဈာန်သမာပါတ်၊ လောကီဓာတ်ပေါင်းစုံ၊ အာဘုန်ပယ်ဖြတ်၊ အတုမရှိသော ဘုန်းတော်တို့နှင့် ပြေ့စုံ ကြွယ်ဝတော်မူပါသော။ အရဟတော၊ အရဟတ္တမဂ်ဉာဏ်၊ ရင့်သန်ကွန့်မြူး၊ တဏှာကို ပယ်သတ်နိုင်၍၊ ပူဇော်အထူးကို ခံတော်မူထိုက်ထသော။ တဿသမ္မာသမ္ဗုဒ္ဓဿ၊သဘာဝဓမ္မ- အနန္တသုညတအထိ- မြင်သိအမှန်- သဗ္ဗညုဉာဏ်ကို- ကိုယ်တော်တိုင် ပထမ ထိုးထွင်းခါ ရှာခဲ့သော ထိုမြတ်စွာဘုရားအား။ နမော၊ ရှိခိုးပါ၏။ (ဝါ) တရားတော်မြတ်နှင့် တကွ-သာဝကအပေါင်းတို့၏ ဂုဏ်ကျေးဇူးအနန္တတို့ကို ရှိခိုးချီးကျူးလို့ အားမရတော့ပါဘုရား။

---

## သဒ္ဓမ္မ ၇ ပါး။

၁။ သဒ္ဓါ- ရတနာ ၃ ပါးကို အားကိုးယုံကြည်ဘို့။
၂။ သီလ-ကာယ,ဝစီ,ကံ ၂-ပါးကို စောင့်ထိန်းဘို့။
၃။ သုတ-ဘုရားရှင်ဆုမ္မသော စကားကို ကြားနာသင်မှတ်ဘို့။

၄။ စာဂ-ပေးကန်း လှူဒါန်း- ပူဇော်-စွန့်ကြဲဘို့။
၅။ ပညာ- ခန္ဓာဒုက္ခ စက်ရဲ့ အဆက် ရပ် နာမ် အဆက် ပြတ်အောင် သိဘို့။
၆။ ဟိရိ-ဒုစရိုက်ပြုခြင်း၌ ယခုလောကမှာပင် ရှက် ကြောက်ဘို့။
၇။ ဩတ္တပ္ပ- ဒုစရိုက် အကျိုးပေး- အပါယ် ၄ ပါး၌ ဖြစ်စေရန် ထိပ်လန့်ဘို့။

ရင်း ၇-ပါးကို လေ့လာ ကျင့်သုံး ဆည်းပူး ကြပါက သူတော်ကောင်းတရား ၇-ပါးဟု သိပါ။ ပြေ့စုံရဲ့လား-ယောဂီ။ မိမိစိတ်ဉာဏ်က ပြန်မေး။ အသိုးအတန်ဆုံး ကိုလဲရွေး၊ သေသေးလဲ သတိထား၊ ပညာရှိ-အရိယာ ပညာရှိများကိုလဲ စုံစမ်းရှာဖွေ တိုင်ပင်၍ လျှောက်ထား။ အန္တဗာလကို မေးရန်မလို။ ဒါနနဲ့စာဂအတူတူ။ သီလ, ဟိရိ, ဩတ္တပ္ပ အတူတူ။ သဒ္ဓါနဲ့ သုတ သဘောတူမှတ်။ စာဂ, သဒ္ဓါ, သုတ ၃ ပါး၌ သမာဓိပါဝင်ပြီ။ ပညာကား အချုပ်တရားဟု ပုဒ်ပြတ်မှတ်။ လိုရင်းမှာ ဒါန သီလ, ဘာဝနာပါတဲ့။ သီလ, သမာဓိ, ပညာ ပါတဲ့။ ရှုပ်တဲ့ ခေတ်မို့- လူပြိန်းသိ ရှင်းမယ်။ ရင်း ၇ပါး ဂုဏ်အင်္ဂါ များသည် အရိယာ အလောင်းတို့နှင့် အရိယာများတို့မှာ ပြေ့စုံသလား မပြေ့စုံဘူးလားဆိုတာ တွေးဘို့ ဝေဘန် ဘို့ စဉ်းစားဘို့ ကိုယ့်အလုပ်မဟုတ်။ အချိန်ကုန်မည် ယောဂီ။ ဤသူတော်ကောင်း တရားတွင် သဒ္ဓါဆိုသော နုလ္လာဘ ငါးပါးထဲက နာမည်ကြီးတခု ပါဝင် ဦးစီးလျက် နေသည်ကို သတိမူကြရမည်။ အချို့လဲ စရဏမျိုးဟု၍

ယူကြသိကြ၏။ စရဏမျိုးယူခဲ့သော် အန္တပုထုဇန်တို့မှာ တခါတရန် တဒင်္ဂမျှဖြစ်သည်။ တသက်တခါမျှ ကျင့်သုံးလေ့လာနိုင်သည်။

သာသနာတွင်း စကား- ဘုရားစကားတို့ တိမ်မြုပ်ကွယ်ပသောအခါ သာသနာအရိပ် အမြွက်မျှ ကျန်ရစ်ရသဖြင့် ကျင့်သုံးလေ့လာသူတို့မှာ မျက်တောင်တခါခပ်မျှသာ သူကောင်း အမည်ခံကြရ၏။ သုံးဆဲ့တဘုံရှိသတ္တဝါတိုင်းပင် ထို၇-ပါးကို ဆည်းပူးကြသောထုံးစံဖြစ်သည်။ စဉ်းစားသော်- သဒ္ဓါ,အသံမျှ၊ သီလ,ခေတ္တမျှ၊ သုတ, တခါတရံ၊ စာဂ,တနေ့တလေ၊ပညာကား ဒုက္ခကို အသိ မပိုင်သော ပညာသာမန်မှတ်။ ဟိရိ,ဩတ္တပ္ပ ၂-ပါးမှာလဲ သတ်ဘို့ ခိုးဘို့နဲ့မကြုံကြိုက်လို့ စောင့်ထိန်းခြင်း၊ သတ်စရာ ခိုးစရာမရှိလို့ မွှေတာ မဖြစ်ခြင်းတို့ကိုထောက်သဖြင့် စရဏ တရားဟူ၍ ကျမ်းဂန်၌ ထင်ရှား ပြထားသည်မှတ်။

ထို ၇-ပါးကို စရဏတရား၌ ထားရခြင်းမှာ မဟာနာမ်မင်း အရိယာကို အကြောင်းပြု၍ ဟောပြ တော်မူသည်။

ဝိဇ္ဇာ ဆိုသော အချက်ကား- အမ္ဗဋ္ဌ ပုဏ္ဏားကို အကြောင်းပြု၍ ဘုရားရှင် ဟောတော်မူသည်။ မသိသူများရှုပ်- သိသူမှာရှင်း၊ ဝိဇ္ဇာစရဏ သမ္ပန္နဂုဏ် တရားမင်း၊ မြတ်စွာဘုရား ဂုဏ်တော်မှတ်။

ဝိဇ္ဇာမျိုးအတွက်- သဗ္ဗညုတဉာဏ်ကိုရ၏။

သဗ္ဗညုတ ဉာဏ်တော်ကို ဝိဇ္ဇာ ဂုဏ်ပုဒ်မှတ်။

> သပ္ပုရိသ်တို့အားသနားတော်မူသဖြင့် စရဏာဂုဏ်
> ကိုဖြည့်ကျင့်ဆည်းပူးရသည့်မှတ်။
> ဘုရားဖြစ်ပြီးနောက် ၎င်းဂုဏ် ၂-ပါးတို့နှင့် ပြည့်
> စုံခြင်းကိုပင် ဝိဇ္ဇာစရဏသမ္ပန္န ဂုဏ်ရှိတယ်မှတ်။
> မြတ်စွာဘုရား ဟောတော်မူသောလိုရင်း အချက်
> ကိုသာ လိုက်နာကြစို့၊ ယောဂီတို့ အထူးသတိပြု။

ဘုရားဖြစ်ချင်လျှင် ဘုရားနည်းလမ်း၊ သောတာပန် ဖြစ်လိုက သောတာပန် စည်းကမ်း၊ သကဒါဂါမ်- အနာဂါမ်- ရဟန္တာထုံးတမ်း စည်းမျဉ်း ဥပဒေကို နားလည် သော နိဗ္ဗာန်လမ်းပြ အရိယာ ဖြစ်အောင် ဟောပြောနိုင် သော သပ္ပုရိသ-ဆရာမြတ်၏ သဒ္ဓမ္မဂုဏ်စစ်ကို ရွေးကြ ရမည် ယောဂီတို့။

> သဒ္ဓမ္မ-ခေါ် သူတော်ကောင်း တရားထဲက ပညာ
> ကို အရောင်တင်မယ်၊ အရောင်ထွက်လျှင် အဝိဇ္ဇာ
> အမှောင် ပျက်ရမယ်၊ ဝိဇ္ဇာခေါ်ပြီမှတ်။

သဒ္ဓမ္မကို ရှုပ်မနေနဲ့၊ သဒ္ဓမ္မ ရှင်းတမ်းက သူတော် ကောင်း တရားဆိုထားပြီ။ယုတ်မာသေးရင် အသဒ္ဓမ္မ ဘဲ မှတ်။ တစ်နံ့ပါတ် သဒ္ဓါဒုလ္လဘကိုဘဲ စဥ်းစားပါ။

ဘုရားကို- ယုံကြည်တယ်၊ ဗုဒ္ဓဘာသာ ဟုတ်တယ်၊ ဘုရားဟောဘဲ့တရား အများကြီးထဲက- မိမိမှာ မနာရ မသိရ-မကြားရသေးတဲ့ တရားဘာလဲတွေး။ အကောင်း ဆုံး လိုရင်းတရားကို-မကြားမနာ မသိရဘဲ တရားတော် ကိုယုံကြည်ဘယ်ဆိုတာ-ဘယ်တရားတွေကို လိုက်နာပြီး

ယုံကြည် ပါသလဲယောဂီ။ သံဃာတော်တို့၏ ဂုဏ်ကို ယုံကြည်တာ ဗုဒ္ဓဘာသာခေါ်တော့- သံဃာ၏ဂုဏ်တော် အစစ်ကို-နားလည်လို့ယုံတာလား၊ကြားဘူးခါ့သာမညာ နဲ့ယုံကြည်ဒါလား။

## ၁။ သဒ္ဓါရှင်းတမ်း

၁- ဘုရားဂုဏ် ယုံလျှင်-ဘုရားစကားနားထောင်။
၂- တရားဂုဏ် ယုံလျှင်-တရားအစစ် ရှာ ခုနာ။
၃- သံဃာဂုဏ် ယုံလျှင်-အရိယာအစစ်ကိုစုံစမ်း။

ဘုရားစကားဟာ-တရားပါဘဲ။အရိယာကို စုံစမ်းဒါ လဲ-တရားရမှ စုံစမ်းနိုင်ပါတယ်။ သဒ္ဓမ္မကိုရေးနေတယ်။ တလွဲမတွေးနဲ့။

သဒ္ဓမ္မ-သူတော်ကောင်းတရားကိုတွေ့လျှင်
သူတော်ကောင်းဘုရား၊သူတော်ကောင်း သံဃာ
ကို တွေ့ပြီလို့-ဝမ်းမြောက်။ ခက်တယ်,သတိပြု။

သဒ္ဓါဟတ္ထော။ ။သဒ္ဓါ၊ယုံကြည်မှုသဒ္ဓါတရားသည်။ (ဝါ) တရားသဒ္ဓါသည်၊ ဟတ္ထော၊ ပဉ္စာမြားရတနာကို-ကောက်ယူနိုင်သော လက်နှင့်တူပေ၏။ ဝေဘူလတောင် သာသနာတွင်း၌-သိဂီနားရှိသော ယောကျ်ားမြတ်-မိန်းမမြတ်တို့၏လက်ကို၊သဒ္ဓါဟု ဆိုလိုက်သည်။အနဉ္စာ ပဉ္စာ မြားကိုရအောင်ကောက်။

ကျောက်စရစ်အိုးခြမ်းခွဲနဲ့ တွေ့မယ်ယောဂီ။

## ၂။ သီလရှင်းတမ်း

ယောဂီ၊ အတ္တ ငါပြုတ်ဘို့ သီလကို စောင့်စမ်းပါ။ သီလစောင့်လျှင် "ငါ" မပါစေနဲ့။ ငါပါတဲ့ သီလဟာ၊ ဘုရားစေခိုင်းတဲ့သီလထင်သလား။ဘာ့ကြောင့်၊ မြောက်ကျွန်းမှာ အသက် ၁၀၀၀ လူတိုင်းရှေတယ်။ ငါးပါးသီလလုံကြတယ်။ဓမ္မပါလပုဏ္ဏားရွာ၌ ပုဏ္ဏားတိုင်း ငါးပါးသီလလုံကြတယ်။နတ်ဗြဟ္မာပြည်၌ ငါးပါးသီလလုံသူတွေ ရှိတယ်။ယခုလူ့ပြည်၌ ဖြစ်ခိုက်-တနေ့-တလ-တဘဝ-လုံခြုံကြသော သီလတွေကို "ငါ" ပါ-မပါ-စဉ်းစားပါ။ ဘုရားဟောတဲ့သီလက ငါမပါဘူး။

"ငါ"သီလ-ကား-သာသနာ့အစစ်မဟုတ်။
ငါနဲ့သီလ-ပေါင်းနေလျှင်-အတ္တသီလမှတ်။
အတ္တသီလကား-မွေးသေအကျိုးပါဘဲ၊ တိုင်ပင်။
အတ္တသီလကား လူ- နတ် ဗြဟ္မာ သံသရာဆက်သွားပါဘဲ။
ပါးစမ်း-နပ်စမ်း-သေရက်တွေးစမ်း ယောဂီ။

---

## ၃။ သုတရှင်းတမ်း

ဘုရားရှင်၏ မိန့်ခွန်းစကားတော် ဟူသမျှကို သုတမှတ်။ တရားစကား မိန့်ခွန်းပေါင်း အနန္တကို ချုန်းလျှင်ကျဉ်းလျှင် ဝိမုတ္တိရသမှတ်၊ နိဗ္ဗာန်ရဘို့-ကိစ္စတခုထဲမှတ်။ ဝိမုတ္တိယုဂခေတ်နော် သတိပြု။(ဆရာတို့ ယောဂီတို့မှာ-ချွဲဆို့လျှင် ကယ်သူ မပေါ်ပါဘူး။) (အတိသဒ္ဓဟိတ္ထွာ၊) အလွန် သဒ္ဓါယုံကြည်ပါကုန်သည် ဖြစ်၍။ ဒေမ-ပူဓေမ၊

ပေးလှူပူဇော်ပါကုန်၏၊လို့လိုက်နာခဲ့ရဒါ ဘုရားစကားတော်ကိုသာ ယုံကြည်၍ ပေးလှူပါ ပူဇော်ပါ။

နိဗ္ဗာန်ဘို့ ယုံကြည် ပေးလှူပါ။
အနတ္တဥာဏ်ကို ရဘို့ ပူဇော်ပါ။
အနတ္တစကား နားလည်အောင် သင်ကြားလေ့လာပါ။

သုတ ကို ရေးနေပြီ။ သုတ နားမှာကြားစမ်းပါ။ ဘာ သုတတွေ ကြားနေသလဲ။ သုတ နဲ့ သဝန အတူတူမှတ်။

ဘာတရားတွေ ကြားနေသလဲ။ နာယူနေသလဲ။ အစည်းအဝေးဖွင့်ကြ။ အသံလွှင့်ဘို့ ခေတ်အချိန်ရောက်ပြီ။ အဋ္ဌဗာလတွေကို အဘု မခိုးကြနဲ့။ အခုစာရေးရင်း အနိဋ္ဌရထား စီးနေရပြီ။ ယောဂီလဲ စာဘတ်ရင်း ရထားစီးပြီးနေဒါကို- ဆရာမြင်တယ်။

ဘုရား ဘာတရားတွေ ဟောသလဲ။ နိဗ္ဗာန်ရဘို့တရားမှတပါး အခြား တရား မဟောဘူး။ အရိယာအလောင်းနဲ့ အရိယာတို့သာ ထိုအကြောင်းကို နားလည်ဘယ်။ ပုထုဇဉ်တို့နားမှာ အသက်ရှည်ဘို့၊ အဆင်းလှဘို့၊ ကြွယ်ဝချမ်းသာဘို့၊ အားခွန်ဗလ ပြေ့စုံဘို့၊ လောကီပညာပြေ့စုံဘို့၊ လူချမ်းသာ၊ နတ်ချမ်းသာ၊ကောင်းကင်ပုံ ဈာန်သမာပါတ် ဆိုတဲ့အသံတွေ ကြားကြ၏၊ နာယူကြ၏၊ တရားထင်ကြ၏။ ခက်ထာဘဲ။

## နား ၂—နား။

| တဏှာသောတ- | ဓမ္မာသောတ |
|---|---|
| မြေခွက်- | ရွှေခွက်။ |
| တဏှာရေအလျှင်- | တရားရေအလျှင်။ |
| လူ-နတ်ချမ်းသာကြိုက် | ခန္ဓာကိုယ်ကို စက်ဆုပ် |
| တယ်- | တယ်။ |
| ဒိဋ္ဌိအ.ပွဲကြောင့် | ဒိဋ္ဌိမ.ပွဲလို့ |
| တဏှာရေဍ္ဍမျော။ | တဏှာရေဍ္ဍရပ်ပြီ။ |
| အန္ဓ ဗာလ ဥမ္မတ္တက။ | ကလျာဏပုထုဇ္ဇ သောတာ |
| | ပန်အရိယာ။ |

တရားဟောတယ် ကြားတိုင်း-ဘာတရားလဲ တွေးပြီး တိုင်ပင်ပြီးသွားကျိုးနပ်ကြ။ ညောင်းကျိုးနပ်ကြ၊ ပိုက်ဆံကုန်ကျိုးနပ်ကြ။ ခန္ဓာကိုယ် အပင်ပန်းခံ၍ နပ်ပါးကြ ယောဂီတို့။

ချမ်းသာဘို့ တရားနာတယ်။ ဆင်းရဲရင်-တရားဟုတ် မဟုတ်စဉ်းစား။ တရားဟာ နာယူဆဲမှာ ရမလား။ (တယောက်ထဲ ထိုင် တွေးနေလို့- တရားရမလား။) ခက်တယ် နာယူဆဲမှာလဲ ရတယ်။ တွေးဆဲမှာလဲ ရ တယ်။အတ္တပြုတ်ကဲ့လား။

### စာဂရှင်းတမ်း

စာဂါနုဿတိ၊ သမထပါဘဲ။ ဒါနပါဘဲ ယောဂီ။ ခွန့်ကြဲ ပေးကမ်းလျှင်- သဒ္ဒါခေါ်- တရားအစစ်ကို ယုံ ကြည်၍၊ ခွန့်ကြဲပါ။ မဆိုင်မပိုင်ကို- စဉ်းစားပြီး- ခွန့်ပါ။

စွန့်လှူပြီးပါက-ငါပိုင် ငါ့ဆိုင် မလုပ်စမ်းပါနဲ့။ စွန့်ချင်စွန့် မစွန့်ချင်နေ၊ "ငါ"မပါစေနဲ့ ယောဂီ။ သဒ္ဓမ္မမဟုတ်ဖြစ်မယ်။ ညောင်စေ့က- ညောင်ပင်ကြီးဖြစ်တို့- မှန်းစွန့်သလား။ သူများပြောတိုင်းယုံသလား။ "ငါ"နဲ့- စာဂနဲ့- တွဲရင်-အတ္တစာဂမှတ်။အနတ္တစာဂမှသာ-သဒ္ဓမ္မခေါ်သည် ယောဂီ။ ဘုရားစကား ယုံကြည်တယ်ဆို- သဒ္ဓါ-သဒ္ဓါ။ အရိယာစကားကိုသာ ယုံစမ်းပါ။ သဒ္ဓါဦးစီးသော သဒ္ဓမ္မ အပါအဝင်ကို ရေးသည်။

ဂါရဝေါစ၊ ရှိသေထိုက်သူကို ရှိသေပါ။

ပူဇာစ၊ ပူဇော်ထိုက်သူကို ပူဇော်ပါ။

အတ္တစာဂကို- (ရတနာသုံးပါး သဒ္ဓါမိုလ်က- သဒ္ဓမ္မ စာရင်းဝင် မဟုတ်ဟု ပယ်ပြီးပြီ။ စာဂ၊ စွန့်လှူလျှင်- တံတွေးပေါက်ကဲ့သို့-စွန့်နိုင်မှ အပါယ်လွတ်မယ်။ ဇာတိ လွတ်မယ်။ သူများ ယောင်တိုင်းယောင် မောင်မယ်- တောင်မြောက်မသိ ဖြစ်ကြရဒါများပြီ။ တိုင်ပင် ယောဂီ၊ အများမတုနဲ့။

## ပညာရှင်းတမ်း

အသိဉာဏ်ကို ပညာမှတ်။သေရမှာကို သိပါ၊သေနေ ဒါကိုသိပါ။သေခဲ့တဲ့ဘဝအနန္တတွေကို သိပါ။ (ခွေး၊ကြွက်၊ နွားသေဒါ) အကုသိုလ်ကို- ပြုမိတဲ့ အကုသိုလ်ကံ၏ အကျိုးဆက်ကြောင့်-သေကြရဒါကို-သိဒါက- မဆန်းပါဘူး။

လူ့,နတ်,ဗြဟ္မာ-သာသနာတွင်း ဗုဒ္ဓဒုလ္လဘခေတ်ဖြစ်၍-သဒ္ဓါ ဒုလ္လဘတရား စစ်ကို ယုံကြည်နိုင်သော-ဗုဒ္ဓဘာသာ အမည်ခံဖြစ်ကြပါလျက်- ကုသိုလ်ကို ပြုခဲ့ပြီးကြလို့ ယခုလူလာ၍ ဖြစ်ခိုက်မှာ-အိန္ဒာသေ-ဆက်သားပြတ်ဘို့-ပညာစစ်ကို ရှာကြဘို့ အချိန်မှန်ရောက်ကြပြီ။ကုသိုလ်ကံကြောင့် သေဘေးဆက်ဆက်ပြီး အားပေးနေကြဒါကို-အထူးဝိသေသ သိဘို့ခက်လှ၏။ ဒါ-အထက်တန်း ပညာမှတ်၊ သဒ္ဒမ္မပညာဗိုလ်က-ဆုံးဖြတ်လိုက်ပြီ။ သဒ္ဒမ္မအစစ်ဂိုဏ်းက- ဘေးမလွတ်သော ပညာတွေကို လက်မခံတော့ပေ။ အဇ္ဈပညာကား- ဇာတိဘေး၊ မရဏဘေး-ဆက်ကြေး ဆက်သွယ်လျက်ရှိ၏။ အနတ္တ ပညာကား-ဇာတိဘေး မရဏဘေးတို့နှင့် ဆက်ကြေး မပေးဘို့ရာ၊ သိမှုအစစ်ပေတည်း။ရင်ကြပ်တယ်။ မရှိဒါထက် မသိဒါအခက်ဆုံး၊

ဘေးမကင်းသော ပညာမှန်လျှင်-ဘုရားဟော အရှင်းမဟုတ်။ ဗိုးလောက်စသော- အပါယ် သတ္တဝါတို့ပင်-သိဘူး-သင်ဘူး လေ့လာဆည်းပူးဘူးကြသည်- ယောဂီတို့။ပညာကိုချွေးကြ။ပညာရှိဆိုတိုင်း-ဘာပညာရှိသလဲစုံစမ်းလိုက-မိမိက-သဒ္ဒမ္မရှင်းတမ်းစာအုပ်ကို- လက်ထဲကမချနဲ့။

## ဟိရိ ဩတ္တပ္ပရှင်းတမ်း

ဟိရိ ဘာလဲ-၊ ဒုစရိုက် ၁၀-ပါးခေါ် သတ်မှု ခိုးမှုကို

ယာခု ပစ္စုပ္ပန်ခေါ် မျက်မှောက်ဘဝမှာ ရှက်ကြောက် ရခြင်းကိုမှတ်။

ဩတ္တပ္ပ ဘာလဲ-၊ ဒုစရိုက်၁၀-ပါးခေါ် သတ်မှု ခိုးမှု ကြောင့်နောင်အပါယ် လေးပါးသို့ ကျမှာကို ထိပ်လန့်ရခြင်းကိုမှတ်။

နတ်များ စောင့်ထိန်းသော
ဒေဝဓမ္မ တရား ၂-ပါးခေါ်တယ်။
သီလာနုဿတိ-ဒေဝတာနုဿတိ
သမထမှာလဲ ပါဝင်နိုင်သည်မှတ်။
ကိုးခဲလှ၏၊ ဆရာကောင်း တွေ့ခဲလှ၏။

စာမသင်ဘူးသူကိုဖယ်၊ စာသင်ဘူးသူများပင် သီလ-သမာဓိ- ပညာကို သုတမယအနေနဲ့ ခြားနားစွာ ဥပဒေ စည်းမျဉ်းအရ သိခဲလေစွ။ ဝတ်လစ်စားလစ် ဖြစ်သူကို မြင်လျှင် ဟိရိဩတ္တပ္ပကင်းသည်၊ အရှက်အကြောက် မရှိဟု သရုတ်ကြ၏။ ထိုသူများ သိဒါ သုံးဒါ သရုတ်ထာ အရှင်းမဟုတ်ဘူး၊ ပုဒ်ပြတ်မှတ်။ အဝတ် အချည်းစီးဖြစ် နေသူကို မြင်နေစေကာမူ-ဟိရိဩတ္တပ္ပ ကင်းသည်ယူဒါ မှားဘယ်၊ အနေမတင့်တယ်ဘူးသာ ပြောထိုက်၏။ ဆုမ္မ ထိုက်၏။ ရုန်း၍ မကဲ့ရဲ့ထိုက်။ မိမိအဝတ်လစ်လပ်မှုကို ပြန်တွေးစမ်းပါယောဂီ။ တရားတော်အစစ်ကို ယုံကြည်တဲ့ သဒ္ဓါရှိပါက ဟိရိဩတ္တပ္ပကို အထူး အားထုတ်ဘွယ် မလို၊ သဒ္ဓါမှစာရင်းဝင်ဖြစ်ပြီမှတ်လေ။

## သူတော်ကောင်းတရား ၇ ပါး

စရဏ ၁၅-ပါး၌ ပါဝင်၏၊ စရဏကို သီလ,သမာဓိ ၂-ပါးဖြင့် ဝေဘန်ဒါရှိ၏။ ဝိဇ္ဇာကို ပညာဖြင့် ဝေဘန်ဒါရှိ၏။ စရဏ အသံတူပေမဲ့ သဘောမှာ ကွဲသည် မှတ်။ စရဏ ၁၅-ပါး၌ ပညာဝိဇ္ဇာမျိုး ပါဝင်၏။ ဝိဇ္ဇာ ၃-ပါး ဝိဇ္ဇာ ၈-ပါးတို့၌လဲ လောကီ အဘိညာဉ်- သီလ သမာဓိ လဲ ပါဝင်နေဒါ သိခဲလှ၏။

### ရုပ်တဲ့ခေတ်မို့ ရှင်းရပြန်ပြီ
### သဒ္ဓမ္မသဝနံ အခါဒုညှာဘံ

သူတော်ကောင်း တရားကို ကြားနာရတို့က အလွန် တရာမှ တွေ့ကြုံခဲ လှတယ်။ ဒုလ္လဘ ပေါင်းချုပ် တရား ထူးကို အားထုတ်မယ်ဆိုရင် သောတာပန်အရိယာ ဖြစ် နိုင်သော နာမ်တရား, ရုပ်တရားကို သိမြင် ပေါက်ရောက် နိုင်သော ဝိပဿနာဉာဏ်ကို ကြားနာလေ့လာ ပွါးများ ဆင်ခြင် မေးမြန်း စုံစမ်းခြင်းကိုသာ သဒ္ဓမ္မအစစ်ဟု သေ သေချာချာမှတ်။

> တရားသံကြားတိုင်း သဒ္ဓမ္မ မဟုတ်သေးဘူး။
> သေမျိုးတွေ တရားစစ်ရတဲ့ ခေတ်၌ သေခြင်းမှ
> လွတ်မြောက်ရာကို ရှာကြ၊ ရှာနေကြပြီ တိုင်း
> ပြည်တို့။

### သောတာပန်ဖြစ်ဘို့ အင်္ဂါ လေးပါး၌

၁-သပ္ပုရိသသံသေဝ-နိဗ္ဗာန်လမ်းပြအစစ်ဆရာကိုချဉ်းကပ်။
၂-သဒ္ဓမ္မသဝန- ရုပ်, နာမ်တရားကိုသာ နာယူ။

၃-ယောနိသော မနသိကာရ- ခန္ဓာကိုယ် ရုပ် နာမ်သဘောကိုသာ နှလုံးသွင်း။

၄-ဓမ္မာနုဓမ္မပဋိပတ္တိ-တရားအဆင့်ဆင့် မြင့်၍ မဂ်ဉာဏ်သို့ ရောက်အောင် အားထုတ်ရခြင်း။

ဤ အင်္ဂါလေးပါးကို ဥပဒေသတော်၌ ပြထား သဖြင့် နံပါတ် ၂-၌သဒ္ဓမ္မပုဒ်ကိုသူတော်ကောင်း တရား ၇-ပါး။ တနည်း-သီလ, သမာဓိ, ပညာ။တနည်း-ရုပ် နာမ် ပညာ စခမ်းသက်သက် ပါဝင်ပြီးပြီ။

သဒ္ဓမ္မ၌-အမှန် အမြတ်ဆုံးတရား ဘာလဲ။
မကြားမနာရဘူးသောတရား ဘာလဲ။
စဉ်းစား- တိုင်ပင်- ဝေဘန်။

ဓမ္မတာတရားနဲ့- ဓမ္မတာမှလွတ်တဲ့တရား နားလယ်ဘို့ အရေးကြီးတယ်။ ယခုခေတ်၌ အလွန် သိဂ်ီနားတွေ ပေါ်လာပြီမှတ်။ စဉ်းစားနာ။ ကျမ်းစာ ဖတ်ရင်လဲ စဉ်းစားဖတ်။ (တဏှာဆိုဒါရှုပ်တယ်) တရားအစစ်က ရှင်းတယ်မှတ်။

အသံကောင်း- ဟန်ကောင်း၊
ဇာတ်လမ်းအထွေထွေ၊
အလွမ်း အဆွေး တရားတွေ
နာဘူးကြပလား စဉ်းစား။

ဓမ္မောမေသရဘာ အဘိနတ္တိလို့ဆိုဘူး ရဘူးကြားဘူးကြတယ်။ ငါ့အား တရားမှတပါး ကိုးကွယ်ရာ မရှိလို့ ဥပဒေရှိပါလျက် အိမ်စောင့်နတ် စသည်တို့ကို ကိုးကွယ်

## သူတော်ကောင်းတရား ၇ ပါး

စရဏ ၁၅-ပါး၌ ပါဝင်၏၊ စရဏကို သီလ,သမာဓိ ၂-ပါးဖြင့် ဝေဘန်ဒါရှိ၏။ ဝိဇ္ဇာကို ပညာဖြင့် ဝေဘန်ဒါရှိ၏။ စရဏ အသံတူပေမဲ့ သဘောမှာ ကွဲသည် မှတ်။ စရဏ ၁၅-ပါး၌ ပညာဝိဇ္ဇာမျိုး ပါဝင်၏။ ဝိဇ္ဇာ ၃-ပါး ဝိဇ္ဇာ ၈-ပါးတို့၌လဲ လောကီ အဘိညာဉ်- သီလ သမာဓိ လဲ ပါဝင်နေဒါ သိခဲလှ၏။

## ရုပ်တဲ့ခေတ်မို့ ရှင်းရပြန်ပြီ

### သဒ္ဓမ္မသဝနံ အခါဒုလ္လဘံ

သူတော်ကောင်း တရားကို ကြားနာရတို့က အလွန် တရာမှ တွေ့ကြုံခဲ လှတယ်။ ဒုလ္လဘ ပေါင်းချုပ် တရား ထူးကို အားထုတ်မယ်ဆိုရင် သောတာပန်အရိယာ ဖြစ်နိုင်သော နာမ်တရား, ရုပ်တရားကို သိမြင် ပေါက်ရောက်နိုင်သော ဝိပဿနာဉာဏ်ကို ကြားနာလေ့လာ ပွါးများ ဆင်ခြင် မေးမြန်း စုံစမ်းခြင်းကိုသာ သဒ္ဓမ္မအစစ်ဟု သေသေချာချာမှတ်။

တရားသံကြားတိုင်း သဒ္ဓမ္မ မဟုတ်သေးဘူး။
သေမျိုးတွေ တရားစစ်ရတဲ့ ခေတ်၌ သေခြင်းမှ
လွတ်မြောက်ရာကို ရှာကြ၊ ရှာနေကြပြီ တိုင်း
ပြည်တို့။

## သောတာပန်ဖြစ်ဘို့ အင်္ဂါ လေးပါး၌

၁-သပ္ပုရိသသံသေဝ-နိဗ္ဗာန်လမ်းပြအစစ်ဆရာကိုချမှီခဲ။
၂-သဒ္ဓမ္မသဝန- ရုပ် နာမ်တရားကိုသာ နာယူ။

၃-ယောနိသော မနသိကာရ- ခန္ဓာကိုယ် ရုပ် နာမ်သဘောကိုသာ နှလုံးသွင်း။
၄-ဓမ္မာနုဓမ္မပဋိပတ္တိ-တရားအဆင့်ဆင့် မြင့်၍ မဂ်ဉာဏ်သို့ ရောက်အောင် အားထုတ်ရခြင်း။

ဤင်း အင်္ဂါလေးပါးကို ဥပဒေတော်၌ ပြထား သဖြင့် နံပါတ် ၂-၌သဒ္ဓမ္မပုဒ်ကိုသူတော်ကောင်း တရား ၇- ပါး။ တနည်း-သီလ, သမာဓိ, ပညာ။တနည်း-ရုပ် နာမ် ပညာ စခမ်းသက်သက် ပါဝင်ပြီးပြီ။

သဒ္ဓမ္မ၌-အမှန် အမြတ်ဆုံးတရား ဘာလဲ။
မကြားမနာရဘူးသောတရား ဘာလဲ။
စဉ်းစား- တိုင်ပင်- ဝေဘန်။

ဓမ္မတာတရားနဲ့- ဓမ္မတာမှလွတ်တဲ့တရား နားလယ်ဘို့ အရေးကြီးတယ်။ ယခုခေတ်၌ အလွန် သိဂိနားတွေ ပေါ်လာပြီမှတ်။ စဉ်းစားနာ။ ကျမ်းစာ ဖတ်ရင်လဲ စဉ်းစားဖတ်။ (တဏှာဆိုဒါရှုပ်တယ်) တရားအစစ်က ရှင်းတယ်မှတ်။

အသံကောင်း- ဟန်ကောင်း၊
ဇာတ်လမ်းအထွေထွေ၊
အလွမ်း အဆွေး တရားတွေ
နာဘူးကြပလား စဉ်းစား။

ဓမ္မောမေသရဏံ အသဲ့နှတ္တိလို့ ဆိုဘူး ရဘူးကြားဘူးကြတယ်။ ငါ့အား တရားမှတပါး ကိုးကွယ်ရာ မရှိလို့ ဥပဒေရှိပါလျက် အိမ်စောင့်နတ် စသည်တို့ကို ကိုးကွယ်

အားထားတာ ငွေကုန်များသောလောကီဝိဇ္ဇာလမ်းတွေကိုအားထားတာပယ်ကြစမ်းပါ။ နတ်ပြည်၆-ထပ်၌နတ်သား နတ်သွီးစည်းစိမ်တွေကို မျှော်မှန်းပြီးယောင်ယမ်း၍ နိဗ္ဗာန် မရခင်(စပ်ကြား) စံစားရပါလို၏လို့ ဆုတောင်းရည်ရွယ် အားထားမှုတွေကို ဘေးဖယ်လိုက်။ အားကိုးတရားအစစ်ကိုသာ တကယ်ရရင် လင် မယား သားသွီး မြေးမြစ် မိန်းကျောက် တိုက်အိမ် လယ်ယာ ဉယျာဉ် စသည်တို့ကို အားကိုးခြင်းမှာလဲ ရ ထားတဲ့ တရားတော်ကပင် သပိတ်မှောက်ပြီးဖြစ်ရမယ်၊ ပုဒ်ပြတ်မှတ်။ သဋ္ဌမ္ဘ စစ်စစ်ကို ရေးနေတယ်၊ ဖြေးဖြေးဖတ်။

ဝိုင်းထဲမှာဖတ်ပြ။

## သမ္မပ္ပဓါန် ၄-ပါး

၁- ဖြစ်ပြီးသော အကုသိုလ်ကိုပယ်မှု။
၂- မဖြစ်သေးတဲ့ အကုသိုလ်ကို တားမြစ်ဘို့။
၃- မဖြစ်သေးတဲ့ကုသိုလ်တို့ကို ဖြစ်ရဘို့။
၄- ဖြစ်ပြီး ကုသိုလ်တို့ကို ပွါးများဘို့။

မဂ္ဂင် ၈-ပါးဝင်၊ သမာဓိ စာရင်းဝင်၊ သမ္မာဝါယာမခေါ်- သမ္မပ္ပဓာန်ခေါ်- အင်္ဂါလေးပါးတို့၌ နံပါတ် ၃ဟာဘာလဲ၊ သတ္တာယဒိဋ္ဌိကွာပြီးပလား။ သောတာပန် ဖြစ်ရတဲ့ မဂ်ခဏခေါ်လောကမှ လွတ်မြောက်တဲ့ လောကုတ္တရာ ကုသိုလ်စိတ် ရဘူး ဖြစ်ဘူးပြီလား၊ ခုတွေးဖတ်ပါ၊ အိမ်သားချင်း တိုင်ပင်ပါ၊ ရှုပ်မနေနဲ့။

ရဘူးဒါဖြုတ်- မရဘူးဒါလုပ်။
ချခေတ် ကြွားဘူးတဲ့-အလုပ်စခမ်း
တွေနဲ့ ရှုပ်လားအုံးမယ်၊ လုပ်ဆိုဒါဘာလဲ။
သောတာပန်ဖြစ်ဘို့ အားထုတ်ရမယ်။
ဝိရိယ- သမ္မာဝါယာမ-သမ္မပ္ပဓာန် အတူတူမှတ်။

**အရိုး** အရေ အသွေး အသား ခန်းခြောက် ပေစေ၊ တရားအစစ် မရမနေဘူးလို့ ဝိရိယ အင်္ဂါ ၄-ပါးနဲ့ ညီစွာ သဗ္ဗညုရှိသဆရာစစ်ထံ၌ တရားနာယူရမည်မှတ်။

ကမ္မဋ္ဌာန်းထိုင်ရမယ်ချည်း မယူနဲ့ ပင်ပန်းမယ်။

## အသိ နဲ့ အလုပ်

## ဘယ်လိုဘဲ ရှုပ်ရှုပ် ဒိဋ္ဌိမပြုတ် ခက်တယ်။

ကမ္မဋ္ဌာန်းမှာ- ကမ္မဋ္ဌာန- ပြုလုပ်ခြင်း အကြောင်း။ သမထနဲ့ ဝိပဿနာ တပိုင်တည်း၊ တကိစ္စထဲ ပါသွားမှုမှတ်။ နိဗ္ဗာန်ရမှု-အကြောင်းကံမှတ်။ လူ့ ဘုံ နတ်ဘုံ ဖြစ်ဘို့ အကြောင်းခံတဲ့ ကံမဟုတ်- ရှုပ်မနေနဲ့အုံး။ ကံဆိုတိုင်း နောင်စိတ်စားဘို့ချည်း မယူလေနဲ့၊ ယခု ပြုလုပ်မှုကို ကမ္မမှတ်၊ ကံမှတ်။ (ကမ္မ-တပုဒ်၊ ဌာနတပုဒ်) ထိုင်ဆိုသော စကားမှာ- လောကပညတ်စကားလို့သိ၊ များသောအားဖြင့် တရားဆင်ခြင်မှုမှာ ထိုင်၍ဆင်ခြင်မှုကို ရည်ရွယ်၍ သုံးကြခေါ်ကြ၏။ မှန်တယ် တကယ်သိဘို့ရာမှာ-

ထိုင်- ထ- လျှောင်း- သွား- ဣရိယာပုထ် လေးပါး တရားပွါးများမှု။

တွေး- ကြံ- စဉ်းစား- ယောဂီများ ကြိုးစားမြင်အောင်ရှု။

ထိုင်ချင်ထိုင်၊ထချင်ထ၊လျောင်းချင်လျောင်း၊ သွားချင်သွား။ ဘယ်လိုဘဲနေနေ၊ နေချင်သလို- စိတ်ထင်သလိုဘာဘဲ လုပ်နေနေ၊ တရားပေါ်လွင်ဖို့ ဆင်ခြင်မှုသာအရေးကြီးသည့် ယောဂီ။

## ဘာလဲ-အလုပ်-ဘာလဲ

စဉ်းစားမှု၊ဆင်ခြင်မှု၊ စုံစမ်းမှု၊မေးမြန်းမှု၊ ဝေဘန်မှု၊ တွေးမှု၊ကြံမှု၊ နှလုံးသွင်းမှု၊ မရရအောင်လုံးပန်းမှု၊ အားထုတ်မှု၊ပြုလုပ်မှု၊ရှာဖွေမှု၊ရဆောင်းမှု၊သိမြင်မှု၊ အာရုံပြုမှု၊ခဏခဏသုံးသပ်မှု၊သတိရတိုင်း ကြံစီမှု၊ စသည့်တို့ကိုအလုပ်မှတ်။

ကျောင်းကိုစွန့်၊ အိမ်ကိုစွန့်- လင်စွန့်- မယားစွန့်- စီးပွါးစွန့်- အလုပ်အကိုင်မလုပ်ဘဲ အဝတ်ချုံးချန်-အစားချုံးချန်-တကိုယ်ရေ- တကာယ- ဗိပ်ပုတီးဆောင်-ဂူ-ချောင်ကို သွားမှ-တရားအားထုတ်သည်၊ အလုပ်လုပ်မှ-တရားထူးရနိုင်မည်၊ ကမ္မဋ္ဌာန်း- ထိုင်ပြီး အလုပ်လုပ်မှ သောတာပန်ဖြစ်မည်၊ အာနာပါနခေါ်- ထွက်သက် ဝင်သက်ကိုရှုမှ- တရားအစစ်ရမည်လို့- အားလုံး အထင်များနေပြီ ယောဂီ။ခက်ထာဘဲ။

နိဗ္ဗာန်လမ်းပြ-အစစ်- ဆရာမြတ်တို့က ဟောဖော်ညွှန်ပြ-ဆုမ္မသောရုပ်နာမ်စသော ပရမတ်တရား- ခေတ်တရားတို့ကို ဟောတုံးဟောဆဲမှာ- အချို့နာယူကြ၏။

တရားအားထုတ်တယ်မယူ၊ မလေးမစားဘဲဖြစ်နေကြပြီ။ ဒါ ဘာ့ကြောင့်၊ ကမ္မဋ္ဌာန်းထိုင်မှ- တရားရမယ်၊ အလုပ် လုပ်မှ-ရမယ်-မလုပ်ရင်မရဘူးလို့ဟောကြသော-ဆရာ တို့၏-အယူသီးမှု-အဇ္ဈာကနုနပေတည်း။ဒီလို အလုပ် ပေးတဲ့-ဆရာတွေကလဲ-အချို့က- တရားလယ်၍ ဟော ကြ၏။ ဟောပြီးလျှင်-အလုပ်ဌာနသို့လာကြလို့ ဆရာက ခေါ်မှု၊ယောဂီချင်းခေါ်မှုတို့ကြောင့် ထိုအလုပ်ပေးဆရာ ၏-တရားဟောပွဲ၌ မည်သူကမှ တရားရမယ်လို့- မယူ ဆတော့ပေ။ ပေါ့ပျက်ပျက် နာကြလေ၏။ ဘာ့ကြောင့်၊ ဒါလူဗုတ်တွဲတရားဘဲ- အလုပ်ခွင်သို့ခေါ်တဲ့ တရားဘဲလို့ အလုပ်သွားချင်း- တရားဝိုင်းမှာ- တရားနှလုံးမသွင်းဘဲ မမှတ်ဘဲ နေကြ၏။

## မိမိကျည်ဆံနဲ့-မိမိကို-ပြန်မှန်ပုံ

တရားကို နာရုံနှင့်မရ၊အလုပ်လုပ်မှ ရမယ်လို့အသုံး အသိ အယူကြောင့် ကမ္မဋ္ဌာန်း ၇-လိုက် စသည် တို့ဖြင့် တရားအားထုတ်ရာဌာနမှ-ဌာနယ်တွေသို့ တရားဟော လိုက်ပြီး မင်းတို့ ယခုလိုတရားနာရုံနဲ့မရ၊ အလုပ်ခွင်သို့ ဝင်ပြီး ၇-ရက်၊ ၁၅-ရက် တလ၁ လ စသည် အားထုတ် မှရမယ်လို့ ဟောကွက်ထဲမှာထဲ့၊ တနည်း၊ ထိုင်ဝိုင်း၌ ပြောဘူးလို့ အလုပ်လုပ်ဘူးသူတပည့် ယောဂီတို့မှာ၊ တရားနာရပေမဲ့အားမရ၊အလုပ်လုပ်မှတရားရမှာဘဲလို့ အယူစွဲခြင်း ဖြစ်ကြရ၏။ဒို့တော့ဘာလိုဘဲ တရားအစစ် ကို နာရသော်လဲ-မရဘူးလို့ စိတ်အားငယ်သွားကြ၏။

အလုပ်ပေးဆရာတို့ အလုပ်သွားယောဂီတို့၏ ဒွိဟ သံသယဖြစ်ပုံ။တရားမှားဒါမှန်ဒါဖယ်ထားအုံး။ ဘုရား လက်ထက်က ဝဏ္ဏသက်သေ ဓာတ်နိပါတ်တို့ကို ဖတ်၍ ကြည့်လျှင် ထိုအသိနဲ့ အလုပ် ဒွိ ၂ ရှုပ်ဟာ၊ဘယ်ဟာက အရေးကြီးတယ်လို့ သက်သေခံကြမည် ယောဂီတို့။ မိမိ တို့သုံးသောစကား မိမိ၏တပည့် များတို့၌ သံသယ ဖြစ်ရမည် ဖြစ်နေပြီ။ ကိုင်း ဘယ်လိုရှင်းကြမှာလဲ။

ဝိသာခါ- မယ်ဥတ္တရာ- အနာထပိဏ်- သုဒ္ဓေါဒန မင်းကြီး-အာဠဝကဘီလူး-ပေါဋ္ဌိလ ဓာတ်ထုပ် အလုပ်လားအသိလား။

ဘုရားလက်ထက်က-လူတွေက ပါရမီရှိလို့ အဖြေ ပေးလျှင်၊သာသနာ ဘာ့ကြောင့် ထားခဲ့သလဲလို့- ပြန် မေးနေရင် ရှေတယ်၊သေမယ်။ မြတ်စွာဘုရား၏ ဥပဒေ အမှန်ကိုသာ လိုက်နာအားထုတ်ကြ ယောဂီတို့။ အပါယ် မကျဘူးလို့- ဘာသူက လက်မှတ်ချမလဲ။သက္ကာယဒိဋ္ဌိကို နားလည်အောင် ကျိုးစားကြ-အရေးကြီးတယ်ယောဂီ။

**ရင်ဝလှံရှူး—ထိပ်ဦးမီးလောင်။**

သိလျှင်ပြီးဒါပေါ့။ အသိဆရာနဲ့ အသိ ယောဂီတို့ အထူးသတိ ပြုဘို့အချက်။ အိုးအိမ်- ကျောင်း- လယ်၊ ဥယျာဉ်-လင်-မယား-သားသမီး စီးပွါး- ရွှေငွေ-စည်းစိမ် တွေကို လက်ပိုက်လျက် ရင်ဝယ်ပိုက်လျက်- စိတ်အာရုံ စိုက်လျက်တရားအမှန်ဝိပဿနာဉာဏ် ရပ်နာမ် သဘာဝ တရားတို့ကို သပ္ပုရိသ ဆရာအစစ်ထံ၌၊ ဘယ်လိုဘဲ တရားနာယူပေမဲ့- အသိမှန်မဆိုက်နိုင်မှတ်။ မနာယူမိ

တရားနာမည့်-ကြံစိစိတ် ပေါ်ကတဲက- အိမ်ထောင်စိတ်တွေကို ဖျောက်ဖျက်ပယ်စွန့်၍ တရားနာယူရမည်။

နဋ္ဌဏ္ဍိ၊ မိန်းမ မဟုတ်။ နပုရိသော၊ ယောကျ်ား မဟုတ်လို့

ဟောသောတရားနဲ့- ငါပိုင်အတ္တတို့နဲ့ ဆန့်ကျင်ဘက်ဖြစ်တတ်သည်။

ဒါ့ကြောင့်-အသိသာမည့်နဲ့ တရားမရမှတ်။

လင်စွဲ, မယားစွဲ, အိမ်စွဲ,ကျောင်းစွဲခေါ် သက္ကာယဒိဋ္ဌိရှိပါကရင်ဝလှ ံစူးထိပ်ဦးမိးလောင်ဟုသံယုတ်ပါဠိတော်၌ မြတ်စွာဘုရား သတိပေးထားသည်။ ပေါ့ပေါ့ ဆဆ အသိမျိုးနဲ့တရားမရဘူး။ အသိပေးဆရာတို့မှာ သိလျှင်ပြီးဒါဘဲ၊ သိလျှင် ဘာလုပ်စရာ လိုသလဲလို့ သုံးလေ့ပြောလေ့ ယူလေ့ရှိကြခြင်းသည် ထိုဆရာတပည့်တို့၏ အတ္တအကာဖုန့ သက္ကိပေတည်း။ တရားနာလျှင် ပြီးတယ်၊ နာပြီးလျှင် ဆင်ခြင်ခိုက်မှာလဲ တရားရနိုင်တယ်၊ သိမြင်နိုင်တယ်၊ အထူးအပင်ပန်းခံဘို့မလို။

## ကိုယ့်ရှုံး ကိုယ်ပတ်

အသိပေးဆရာတို့ ဆုမ္ဘူကို နားဝင် နားယောင်ကြသော ယောဂီတို့ မှားပုံမှာ အလွန်ပေါ့ပေါ့ ဆဆ အနေရောက်တတ်၏။ အိမ်စိတ်, ကျောင်းစိတ်, သားသ္မီးစီးပွါးအိမ်ထောင်ကိစ္စ အတွေတွေကို လိုက်စားလျက် အသိသာမည့်နဲ့ပင် မဂ်ဖိုလ်ကို ငါရပြီ၊ ငါသောတာပန်တည်ပြီ၊ တရားရှာဘို့တရားနာဘို့မလိုတော့ပြီ၊တခါနာပြီးလျှင်

ထပ်ခါထပ်ခါနှာဘ်ဂျိမလိုဟု ယူဆသူများ၏။မလေးမစား ဖြစ်တတ်ထသများ၏။အသိပေး ဆရာတို့အားကိုယ့်ရှုး-ကိုယ့်ပတ် ကိုယ့်ပြန်သတ်ပုံ။ သက္ကာယဒိဋ္ဌိတန်းလမ်းနဲ့ ဝိပဿနာဉာဏ် သာမညကို သောတာပန် ထင်ဒါမှား တယ်။ အထူးသတိပြုကြ ယောဂီတို့။ သောခဲ့ဒါ မြေမှူ့မှ မကာဘူး။

ရှင်ရှုဥ္စပန်၊ ညီတော်မင်းနန်၊ ဝဂ်ီသမထေရ်၊ တိဿနာဂမထေရ်၊ စသည့်တို့ကိုသာ နမူနာယူ ကြ။ အသိလား၊ အလုပ်လား။

အသိဂိုဏ်းသည် ကာမသုခလ္လိကနဲ့ ရောတတ်၏။
အလုပ်ဂိုဏ်းသည် အတ္တကိလမထ ယောင်ယောင် ဖြစ်တတ်၏။

စဉ်းစား၊တိုင်ပင်၊ဝေဘန်၊မေးလျှောက်၊ မာန်ချ၊ ရှိခိုး၊ မှားရင်ပြင်၊ မှန်ရင်လိုက်၊ ခိုးမှေ- နိဗ္ဗာန်အမြိုက်။

**သဒ္ဒမ္မ ပုဒ်**

သန္တာနံဓမ္မော သဒ္ဓမ္မော။ ။သန္တော ဓမ္မော သဒ္ဓမ္မော။
သန္တာနံ၊သူတော်ကောင်းတို့၏။ ဓမ္မော၊တရားသည်။ သဒ္ဓမ္မော၊သဒ္ဓမ္မမည်၏။

သန္တော၊ ငြိမ်သက်သော။ ဓမ္မော၊ တရားသည်။ သဒ္ဓမ္မော။ သဒ္ဒမ္မည်၏။

ပထမ ဝိဂြိုဟ်ပြကား- ပုဂ္ဂလနဲ့တွဲသော သူတော် ကောင်းတရားမှတ်။

ဒုတိယ ဝိဂြိုဟ်ပြကား- မွေ့သတ်သတ် တရားမှတ်။ ခက်တယ်ယောဂီ။

## ပုထုဇန် အရိယာ

သက္ကာယဒိဋ္ဌိ ........ .... အနတ္တအစစ်။
ရင်ဝလှံ့စူး ........ ........ ရင်ထဲမှာ သဋ္ဌမ္မမှတ်။
သူရှုံး ........ ........ ........ သူတောင်တောင်း။

ယောစ ဝဿသတံ ဇီဝေ အပဿံ ဥဒယဗ္ဗယံ၊
ဧကာဟံဇီဝိတံသေယျော ပဿတော ဥဒယဗ္ဗယံ။

ယော ပုဂ္ဂလော၊ ကံကောင်းထောက်မ လူ့ပြည်သို့ ရောက်လာရတဲ့အကြွင်းအနွဗါလပုဂ္ဂိုလ်သည်။ ဥဒယဗ္ဗယံ၊ ရုပ်, နာမ် ၂-ချက် ဖြစ်ပျက်ဖန်ဖန် လက္ခဏာဉာဏ်ကို။ အပဿံ အပဿန္တော၊ မသိမမြင် မဆင်ခြင်ဘူးပါလျှက်။ ဝဿသတံ၊ အသက်ကိုစစ် အနှစ်တရာ။ ဇီဝေဇီဝေယျ၊ သီလကြောင့်ပင် အသက်ရှင်၍နေရငြားအံ့။ နသေယျော သာသနာနေမမြင် အစဉ်ဗုံးလွှမ်း မျက်စိကန်း အရူး ဇာတ်မို့ လူဖြစ်ကျိုးမနပ်သဖြင့် မမြတ်တော့ပေ။ ဥဒယဗ္ဗယံ၊ ရုပ်, နာမ် ပျက်ပြား ဤခန္ဓာ စက်ရထားကို။ ပဿတော၊ ဆင်ခြင် ဝေဘန် သိမြင်နိုင်တဲ့ ဝိပဿနာ ဉာဏ်ကိုရသောသူအား။ ဧကာဟံ၊ တနေ့တရက် အသက် တခဏ တအောင့်ကလေးမျှ။ ဇီဝိတံ၊ သီလနဲ့ပါး အသက် ရှင်၍နေရငြားသော်လည်း။ သေယျော၊ ငါတုရားသာသနာမှာ လူလာ၍ ဖြစ်ခိုက်၊ ဝိပဿနာ အသိမှန်နှင့် တိုက်ကြုံ၍ မဂ်ဆိုက် ဖိုလ်စံ အခြေခံ ဝေဘန်တတ်သဖြင့် သြော်........ ကောင်းပင် အမြတ်ကြီး မြတ်လှပါပေ၏ တကား။

**သဒ္ဓမ္မ ရှင်းတမ်းမှာ**

သာသနာတွင်း — နဲ့—သာသနာပ တရား
ဘုရားကြိုက် — နဲ့—အများ ကြိုက် တရား
ခုရဘို့.............................. နဲ့—နေခင်မှန်းထားမှု
ရုပ်နာမ်သိမှု- ........ နဲ့—အပိုတွေလိုက်မှု
သူတော်ကောင်းတရား-နဲ့ - သူယုတ်မာတရား
ဘုရားဟော ............... နဲ့—အများပြော
ကျမ်းသာဓက .... နဲ့...ဥပဒေလွတ်
သာသနာတရား ........ နဲ့—မွေတာတရား
အနတ္တတရား........ နဲ့....အတ္တတရား
အရိယာဖြစ်ဘို့ ........ နဲ့—သံသရာလယ်ဘို့

**အသိ- နဲ့- အလုပ် ဘယ်လိုဘဲရှုပ်ရှုပ် ဒိဋ္ဌိမပြုတ် ခက်တယ် ကယ်သူမရှိ။**

နိဂုံး ချုပ်

အချုပ်မှာ သာသနာတွင်းတရား သဒ္ဓမ္မအစစ် ပေါ် အောင် မွေရာဇာ၊ ဗုဒ္ဓရာဇာမင်းကောင်း မင်းမြတ် ပေါ် ပေါက်ရပေမည်။ ထိုဗုဒ္ဓရာဇာ မွေရာဇာ မင်းကောင်း မင်းမြတ်ပေါ်၍ သဒ္ဓမ္မအစစ် ပေါ် ပြီး သဒ္ဓမ္မအစစ် အနတ္တ အနှစ်ကို ကိုယ်တိုင် ရရှိခံစားချင်ကြလျှင် ယခုနေ့ကစပြီး သူတော်ကောင်း ဥတ္တာရတနာ ၇-ပါးကို ရင်တွင်း နှလုံး တွင်း၌ ကိန်းအောင်းနေအောင် ကြိုးစား အားထုတ်ကြ လေ။ သို့မှ သာသနာတွင်း၌ လူဖြစ်ကျိုးနပ်ကြမည် မှတ် ကြ။သဒ္ဓမ္မတရားအစစ် (ဝိပ**ဿ**နာ)ကိုသာ ကြိုးစားနာယူ အားထုတ်ကြလေ။ ။ပြီး ပြီ။

# ကပ်ကြီးသုံးပါး

လူတို့လောဘ၊ ကြီးကာလ၌၊ ဒုဗ္ဘိက္ခဘေး၊ ငတ်မွတ် ရေးကြောင့်၊ ရိုးဖွေးတောင်မျှ၊ ပျက်စီးကြ၏။

ဒေါသတရား၊ ပွါးလတ်သောခါ၊ ဓားမိုးရွာသို့၊ သတ္တ ဝါလူပုံ၊ ပြောဟုံ အမျက်၊ စက်မက်ပြိုင်ခင်း၊ လက်နက် ကျင်း၍၊ ချင်းချင်းသတ်ကြ၊ သွေးချောင်းကျ၏။

မောဟလွှမ်းပြီး၊ ဘီလူးစားသို့၊ ထူးပြားရောဂါ၊ ဝေဒ နာဖြင့်၊ များစွာကပ်ရောက်၊ သေပျောက်လူရှင်၊ ထုပြော ဖြင်၏။

ထို့ပြင်တဝ၊ လောဘမီးဟူ၊ ဒေါသမှုရေ၊ မောဟလေ တည့်၊ သုံးတွေ့မူလ၊ ဤပါပဖြင့်၊ လောကအားလုံး၊ ထုံးသို့ ကြေညက်၊ ကမ္ဘာပျက်ဟု၊ ဆက်ဆက်ကျမ်းတွင်၊ ဟော မိန့်ကျင်ခဲ့။

လူ၌ထိုသို့၊ တရားချို့လည်း၊ မင်းတို့နိုက်သာ၊ အပြစ် လာသိမ့်၊ ပညာမဲ့ပြီး၊ တရားကျင့်ဝတ်၊ မင်းတို့ချွတ်က၊ ငတ်မွတ်ရေစာ၊ ရောဂါလက်နက်၊ သုံးချက်ဘေးကြီး၊ ဘိစီးပြည်ရွာ၊ ရောက်တတ်ရာ၏။

(မဃဒေဝလင်္ကာ)

## ဘုန်း၊ ရှိပေါ်ရောက်-ဘုန်းမဲ့ပျောက်

ဤလူ့လောက၊ တဘဝ၌၊ ခဏခိုက်ခေတ်၊ မင်းအဖြစ် လည်း၊ ကျိုးပြစ်နှစ်ပါး၊ အလွန်များသော်၊ တရား မယှဉ်၊ စင်လေနရက်၊ တရားဘက်က၊ တက်လေနတ်ရွာ၊ ဆက် ဆက်သာတသ်။ ။

ငါသို့မင်းစစ်၊ဖြစ်သကားဟူ၊မာန်မမူနှင့်၊မည်သူမဆို၊
ရှေးကုသိုလ်လျှင်၊ပေးလိုအခွင့်၊ပန်းနှယ်ပွင့်၏၊ခါသင့်ချိန်
ဆုန်း၊နတ်တန္ခုန်းသို့၊လူ့ဘုန်းသမ္ဘာ၊ မမြင်သာဘူး၊ကြမ္မာ
နှင့်ချည်း၊အရိပ်နည်းရှင့်။ ။

သူတည်း တယောက်၊ ကောင်းတို့ယောက်က၊ တ
ယောက်သူမှာ၊ ပျက်မြဲသာတည့်၊ ဓမ္မတာဟူဘိ၊ မောင်
မှတ်သိလော့၊ဘုန်းရှိပေါ်ရောက်၊ ဘုန်းမဲ့ပျောက်၏။ ။

မဘောက်မှန်ဟုတ်၊ ပမာထုတ်မူ၊ သစ်ငုတ် မြင့်ဘုံ၊
မြက်မြင့်ဘုံနှင့်၊တူပုံမယွင်း၊ရွှေရောင်ဝင်းလည်း၊မှန်ကင်း
တလှည့်၊ထင်းတလှည့်သို့၊ လူ၏ထုံးစံ၊ လောကဓံကား၊
ငါ့ထံမရောက်၊ မဆိုစောက်ရှင့်။ ။

(မဃဒေဝလင်္ကာ)

## မာနမကြီးနှင့်

ပညာကင်းဘိ၊ မနိုင်းညှိဘဲ၊ ဇာတိပုညာ၊ မဟာဗ္ဗဖြင့်၊
မာနအရာ၊ ကဲမိုးစွာလျက်၊ ငါသာမင်းဟူ၊ ပဇာတူဟု၊
အယူမှောက်ကြွား၊ မထောင်လွှားနှင့်၊ တောင်ကားမြင့်
ကြီး၊မိုးကာရှိန်ပူ၊ သံမူမာကျော၊ ဘက်မဲ့သောဟု၊ ရေ
ကြောသတ္တိ၊မသိ၍သာ၊ ကြွမ်းပရာသို့၊ ပမာပုံမှီး၊မာန်မူ
ကြီး၍၊ တောင်,မိုး,သံလား၊ မကြိုးဝါးလင့်၊ ရေအားကြုံ
တွေ့၊ဝဲဟုန်မွှေ့၍၊တိုက်ဖွေသောခါ၊ မကြာမတင်၊အလျှင်
သဖြင့်၊တောင်မြင့်မိုးပူ၊ သံမာမူလည်း၊ မှုသာဖြစ်၍၊ စင်
စစ်ကြေမွ၊ပျောက်ပျက်ရ၏။ ။

## သာသနမုခစာအုပ်တိုက်

ဆူးလေဘုရားဝင်း၊ ရန်ကုန်မြို့

( ရနိုင်သောစာအုပ်များ )

ဆရာကြီး-ဦးမြတ်သိန်းထွန်းရေး-

| | | | |
|---|---|---|---|
| ပညာဒီပနီ | .... | .... | ၁၀-ကျပ်။ |
| စက္ခုဒီပနီ | .... | .... | ၄-ကျပ်။ |
| ဉာဏဒီပနီ | .... | .... | ၃-ကျပ်။ |
| မင်္ဂလာဝိပဿနာ | .... | .... | ၃-ကျပ်။ |
| သာသနမုခကျမ်း | .... | .... | ၂-ကျပ်။ |
| ဘာသာရှင်းတမ်း | .... | .... | ၁-ကျပ်ခွဲ။ |
| မေ့္တသနဒီပနီ | .... | .... | ၁-ကျပ်ခွဲ။ |
| မေ့္ဓာဝိဇ္ဇာနဒီပနီ | .... | .... | ၁-ကျပ်။ |

---

ကြောင်ပန်းဝိပဿနာ ၆ စောင်တွဲ-၃-ကျပ်။

ရှင်း ၃ စောင်တွဲ-၁-ကျပ်ခွဲ။

ပရမတ္ထစက္ခုကျမ်း (ဒိုဟ်ယင်း) ၆-ကျပ်။

လယ်တီဆရာတော်-ဒီပနီအမျိုးမျိုး။

ဘာသာပြန် စာပေအသင်းမှ စာအုပ်အမျိုးမျိုး။

ကျောင်းသုံးစာအုပ်အမျိုးမျိုး။